# ခုဒ္ဒကနိကာယ်

# မိလိန္ဒပဉှာပါဠိတော်

မြန်မာပြန်

------

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။



မိလိန္ဒပဉှာ မာတိကာ ပြီး၏။

------

# ခုဒ္ဒကနိကာယ်

# မိလိန္ဒပဉှာပါဠိတော်

## မြန်မာပြန်

------

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

# မိလိန္ဒပဉ္စာပါဠိတော်



မိလိန္ဒပဉှာ မာတိကာ ပြီး၏။

------

# ခုဒ္ဒကနိကာယ်

# မိလိန္ဒပဉှာပါဠိတော်

## မြန်မာပြန်

------

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

# မိလိန္ဒပဉှာပါဠိတော်

## ၂ - မိလိန္ဒပဉှာ

### ၁ - မဟာဝဂ်

# မိလိန္ဒပဉှာပါဠိတော်

# မိလိန္ဒပဉှာပါဠိတော်

၂ - မိလိန္ဒပဉှာ

၄ - နိဗ္ဗာနဝဂ်

၁ - ဖဿာဒိဝိနိဗ္ဘုဇနပဉှာ (ဖဿစသည်တို့ကို ခွဲခြား၍ သိ၊ မသိ ပြဿနာ)

၂ - နာဂသေနပဉှာ (အသျှင်နာဂသေနမေးသော ပြဿနာ)

၃ - ပဉ္စာယတနကမ္မနိဗ္ဗတ္တပဉှာ (အာယတနငါးပါး ကံကြောင့် ဖြစ်ပုံ ပြဿနာ)

၄ - ကမ္မနာနာကရဏပဉှာ (ကုသိုလ်ကံ၊ အကုသိုလ်ကံ ခြားနားမှု ပြဿနာ)

၅ - ဝါယာမကရဏပဉှာ (လုံ့လဝီရိယထုတ်ခြင်း ပြဿနာ)

၆ - နေရယိကဂ္ဂိဥဏှဘာဝပဉှာ (ငရဲမီးပူလောင်ပုံ ပြဿနာ)

၇ - ပထဝိသန္ဓာရကပဉှာ (မြေကြီးတည်နေပုံ ပြဿနာ)

၈ - နိရောဓနိဗ္ဗာနပဉှာ (ချုပ်ခြင်းသည် နိဗ္ဗာန်မည် မမည် ပြဿနာ)

၉ - နိဗ္ဗာနလဘနပဉှာ (နိဗ္ဗာန်ရခြင်း ပြဿနာ)

၁၀ - နိဗ္ဗာနသုခဇာနနပဉှာ (နိဗ္ဗာန်ချမ်းသာကို သိ မသိ ပြဿနာ)

၅ - ဗုဒ္ဓဝဂ်

၁ - ဗုဒ္ဓဿ အတ္ထိ နတ္ထိဘာဝပဉှာ (မြတ်စွာဘုရား ရှိ မရှိ ပြဿနာ)

၂ - ဗုဒ္ဓဿ အနုတ္တရဘာဝပဉှာ (မြတ်စွာဘုရား အတုမရှိမြတ်ပုံ ပြဿနာ)

၃ - ဗုဒ္ဓဿ အနုတ္တရဘာဝဇာနနပဉှာ

(မြတ်စွာဘုရား၏ အတုမရှိသည့်အဖြစ်ကို သိ မသိ ပြဿနာ)

၄ - ဓမ္မဒိဋ္ဌပဉှာ (တရားတော်ကို မြင် မမြင် ပြဿနာ)

၅ - အသင်္ကမနပဋိသန္ဓဟနပဉှာ (မပြောင်းရွှေ့ဘဲ ပဋိသန္ဓေနေ မနေ ပြဿနာ)

၆ - ဝေဒဂူပဉှာ (ဝေဒဂူ 'အတ္တလိပ်ပြာကောင်' ပြဿနာ)

၇ - အညကာယသင်္ကမနပဉှာ

(အခြားကိုယ်သို့ ပြောင်းသော သတ္တဝါ ရှိ မရှိပြဿနာ)

၈ - ကမ္မဖလအတ္ထိဘာဝပဉှာ (ကံ၏ အကျိုးရှိသည်၏ အဖြစ်ပြဿနာ)

၉ - ဥပ္ပဇ္ဇတိဇာနနပဉှာ (ပဋိသန္ဓေဖြစ်တည်မှုကို သိ, မသိပြဿနာ)

၁၀ - ဗုဒ္ဓနိဒဿနပဉှာ (မြတ်စွာဘုရားကို ပြနိုင်၊ မပြနိုင်ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

၂ - မိလိန္ဒပဉှာ

၆ - သတိဝဂ်

၁ - ကာယပိယာယနပဉှာ (မိမိကိုယ်ကို ချစ်၊ မချစ်ပြဿနာ)

၂ - သဗ္ဗညုဘာဝပဉှာ (မြတ်စွာဘုရား တရားအားလုံးကို သိ၊ မသိပြဿနာ)

၃ - မဟာပုရိသလက္ခဏပဉှာ

(မြတ်စွာဘုရား မဟာပုရိသ လက္ခဏာ ပြည့်စုံ၊ မပြည့်စုံပြဿနာ)

၄ - ဘဂဝတော ဗြဟ္မစာရိပဉှာ (မြတ်စွာဘုရား ဗြဟ္မစာရီ မည်၊ မမည်ပြဿနာ)

၅ - ဘဂဝတော ဥပသမ္ပဒါပဉှာ (မြတ်စွာဘုရား ပဉ္စင်း ဖြစ်၊ မဖြစ်ပြဿနာ)

၆ - အဿုဘေသဇ္ဇာဘေသဇ္ဇပဉှာ

(မျက်ရည်၏ ဆေးနှင့် ဘေးဖြစ်ပုံပြဿနာ)

၇ - သရာဂဝီတရာဂနာနာကရဏပဉှာ

(ရာဂရှိသူနှင့်ရာဂကင်းသူ ထူးပုံပြဿနာ)

၈ - ပညာပတိဋ္ဌာနပဉှာ (ပညာ၏ တည်နေရာ ပြဿနာ)

၉ - သံသာရပဉှာ (သံသရာ ပြဿနာ)

၁၀ - စိရကတသရဏပဉှာ

(ကြာမြင့်စွာက ပြုပြီးသည်ကို အောက်မေ့နိုင်မှု ပြဿနာ)

၁၁ - အဘိဇာနန္တသတိပဉှာ

(သတိသည် အမြဲသိမှတ်၍ ဖြစ်၊ မဖြစ် ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်



မိလိန္ဒပဉှာပုစ္ဆာဝိသဇ္ဇနာ (မိလိန္ဒမင်း၏ ပြဿနာနှင့် အမေးအဖြေများ)

# မိလိန္ဒပဉှာပါဠိတော်

# မိလိန္ဒပဉ္စာပါဠိတော်

၄ - မေဏ္ဍကပဉှာ

## ၂ - အဘေဇ္ဇဝဂ်

၁ - ခုဒ္ဒါနုခုဒ္ဒကပဉှာ

(ဒုက္ကဋ်၊ ဒုဗ္ဘာသီ သိက္ခာပုဒ်တို့ကို နုတ်ပယ်စေသော ပြဿနာ)

၂ - အဗျာကရဏီယပဉှာ (မြတ်စွာဘုရား ဖြေကြားခြင်းမပြုသော ပုစ္ဆာပြဿနာ)

၃ - မစ္စုဘာယနာဘာယနပဉှာ (သေခြင်းမှ ကြောက် မကြောက် ပြဿနာ)

၄ - မစ္စုပါသမုတ္တိပဉှာ (သေမင်းကျော့ကွင်းမှ လွတ် မလွတ် ပြဿနာ)

၅ - ဗုဒ္ဓလာဘန္တရာယပဉှာ

(မြတ်စွာဘုရားအား လာဘ်အန္တရာယ် ရှိ မရှိ ပြဿနာ)

၆ - အပုညပဉှာ (မကောင်းမှု ပွားစီး၊ မပွားစီး ပြဿနာ)

၇ - ဘိက္ခုသံဃပရိဟရဏပဉှာ

(ရဟန်းသံဃာကို ထိန်းသိမ်းဆောင်ရွက်ခြင်း ပြဿနာ)

၈ - အဘေဇ္ဇပရိသပဉှာ

(မြတ်စွာဘုရားအား မကွဲပျက်သော ပရိသတ် ရှိ မရှိ ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

၄ - မေဏ္ဍကပဉှာ

၃ - ပဏ္ဏာမိတဝဂ်

၁ - သေဋ္ဌဓမ္မပဉှာ (တရားတော်သည် အမြတ်ဆုံး ဖြစ် မဖြစ် ပြဿနာ)

၂ - သဗ္ဗသတ္တဟိတဖရဏပဉှာ (မြတ်စွာဘုရားသည် သတ္တဝါအားလုံးတို့၏ အကျိုးစီးပွားကို ဆောင် မဆောင်ပြဿနာ)

၃ - ဝတ္ထဂုယှနိဒဿနပဉှာ (လျှို့ဝှက်သော အင်္ဂါကို ပြခြင်းဆိုင်ရာ ပြဿနာ)

၄ - ဖရုသဝါစာဘာဝပဉှာ

(မြတ်စွာဘုရား စကားကြမ်းသည်၏ အဖြစ်ကို ပြသော ပြဿနာ)

၅ - ရုက္ခအစေတနာဘာဝပဉှာ

(သစ်ပင်တို့ စိတ်စေတနာမရှိသည့်အဖြစ် ပြဿနာ)

၆ - ပိဏ္ဍပါတမဟပ္ဖလပဉှာ (ဆွမ်းနှစ်မျိုး၏ အကျိုးကြီးမှု တူပုံပြဿနာ)

၇ - ဗုဒ္ဓပူဇနပဉှာ (မြတ်စွာဘုရားအား ပူဇော်ခြင်း ပြဿနာ)

၈ - ပါဒသကလိကာဟတပဉှာ (ခြေတော်၌ ကျောက်ချပ်လွှာထိခြင်း ပြဿနာ)

၉ - အဂ္ဂဂ္ဂသမဏပဉှာ (အမြတ်ဆုံးရဟန်း ပြဿနာ)

၁၀ - ဝဏ္ဏဘဏနပဉှာ (ဂုဏ်ကို ပြောဆိုခြင်း ပြဿနာ)

၁၁ - အဟိံသာနိဂ္ဂဟပဉှာ (မညှဉ်းဆဲခြင်းနှင့် ဖိနှိပ်ခြင်း ပြဿနာ)

၁၂ - ဘိက္ခုပဏ္ဏာမိတပဉှာ

(ရဟန်းတို့ကို မြတ်စွာဘုရား နှင်ထုတ်ခြင်း ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

# မိလိန္ဒပဉှာပါဠိတော်

၄ - မေဏ္ဍကပဉှာ

၅ - သန္ထဝဝဂ်

၁ - သန္ထဝပဉှာ (သန္ထဝ စသော ဂါထာနှင့် စပ်သော ပြဿနာ)

၂ - ဥဒရသံယတပဉှာ (ဝမ်း 'အစာအိမ်'၌ စောင့်စည်းမှု ပြဿနာ)

၃ - ဗုဒ္ဓအပ္ပါဗာဓပဉှာ (မြတ်စွာဘုရားနှင့် အနာကင်းသူ ပြဿနာ)

၄ - မဂ္ဂုပ္ပါဒနပဉှာ (မဂ်ကို ဖြစ်စေပုံ ပြဿနာ)

၅ - ဗုဒ္ဓအဝိဟေဌကပဉှာ (မြတ်စွာဘုရား သတ္တဝါတို့ကို မညှဉ်းဆဲပုံ ပြဿနာ)

၆ - ဆဒ္ဒန္တဇောတိပါလာရဗ္ဘပဉှာ
(ဆဒ္ဒန်ဆင်မင်းနှင့် ဇောတိပါလလုလင်တို့၏ အပြုအမူ ပြဿနာ)

၇ - ဃဋီကာရပဉှာ (ဃဋီကာရအိုးထိန်းသည် 'အိမ်' ပြဿနာ)

၈ - ဗြာဟ္မဏရာဇဝါဒပဉှာ
(မြတ်စွာဘုရား၏ ဗြာဟ္မဏ, ရာဇ ဟူသော စကားပြဿနာ)

၉ - ဂါထာဘိဂီတဘောဇနကထာပဉှာ (ဂါထာတို့ကို သီဆို၍ ရအပ်သော ဘောဇဉ်ကို မသုံးဆောင် ဟူသော စကားဆိုင်ရာ ပြဿနာ)

၁၀ - ဓမ္မဒေသနာယ အပ္ပေါသုက္ကပဉှာ (မြတ်စွာဘုရား တရားဟောမှု၌ ကြောင့်ကြမဲ့ နေလိုခြင်း ပြဿနာ)

၁၁ - အာစရိယာနာစရိယပဉှာ (မြတ်စွာဘုရားအား ဆရာ ရှိ၊ မရှိ ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

## ၅ - အနုမာနပဉှာ

### ၁ - ဗုဒ္ဓဝဂ်

၁ - ဒွိန္နံဗုဒ္ဓါနံ အနုပ္ပဇ္ဇမာနပဉှာ
(ဘုရားနှစ်ဆူ တစ်ပြိုင်နက် မပွင့်ခြင်း ပြဿနာ)

၂ - ဂေါတမိဝတ္ထဒါနပဉှာ (မိထွေးတော်ဂေါတမီ သင်္ကန်းလှူခြင်း ပြဿနာ)

၃ - ဂိဟိပဗ္ဗဇိတ သမ္မာပဋိပတ္တိပဉှာ
(လူနှင့် ရဟန်းတို့ ကောင်းစွာ ကျင့်ခြင်း ပြဿနာ)

၄ - ပဋိပဒါဒေါသပဉှာ (ဒုက္ကရစရိယာအကျင့်၏ အပြစ် ပြဿနာ)

၅ - ဟီနာယာဝတ္တနပဉှာ
(သာသနာတော်မှ ပြန်လည်ဆုတ်နစ် 'လူထွက်' ခြင်း ပြဿနာ)

၆ - အရဟန္တဝေဒနာဝေဒိယနပဉှာ (ရဟန္တာဝေဒနာခံစားခြင်း ပြဿနာ)

၇ - အဘိသမယန္တရာယကရပဉှာ
(တရားကို ထိုးထွင်းသိမြင်ခြင်း၏ အန္တရာယ် ပြဿနာ)

၈ - ဒုဿီလပဉှာ (ဒုဿီလ 'ရဟန်းနှင့် လူ အထူး' ပြဿနာ)

၉ - ဥဒကသတ္တဇီဝပဉှာ (ရေသည် သတ္တဇီဝ ဟုတ်၊ မဟုတ် ပြဿနာ)

### ၂ - နိပ္ပပဉ္စဝဂ်

၁ - နိပ္ပပဉ္စပဉှာ (သံသရာမချဲ့တတ်သော တရား ပြဿနာ)

၂ - ခီဏာသဝဘာဝပဉှာ (လူ့အသွင်ဖြင့် ရဟန္တာအဖြစ် ပြဿနာ)

၃ - ခီဏာသဝသတိသမ္မောသပဉှာ (ရဟန္တာနှင့် သတိမေ့လျော့မှုပြဿနာ)

၄ - လောကေ နတ္ထိဘာဝပဉှာ (လောက၌ မရှိသော ဝတ္ထု ပြဿနာ)

၅ - အကမ္မဇာဒိပဉှာ (ကံစသည်ကြောင့် မဖြစ်သော အရာဝတ္ထု ပြဿနာ)

၆ - ကမ္မဇာဒိပဉှာ (ကံစသည်ကြောင့် ဖြစ်သော အရာဝတ္ထု ပြဿနာ)

၇ - ယက္ခပဉှာ (ဘီလူး ရှိ၊ မရှိ ပြဿနာ)

၈ - အနဝသေသသိက္ခာပဒပဉှာ
(သိက္ခာပုဒ်ကို အကြွင်းမဲ့ ပညတ်ခဲ့ခြင်း ပြဿနာ)

၉ - သူရိယတပနပဉှာ (နေ၏ ထွန်းလင်းတောက်ပမှု ပြဿနာ)

၁၀ - ကဋိနတပနပဉှာ (နေ၏ ပြင်းစွာ ထွန်းလင်းတောက်ပမှု ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

## ၅ - အနုမာနပဉှာ

### ၃ - ဝေဿန္တရဝဂ်

၁ - ဝေဿန္တရပဉှာ (ဝေဿန္တရာမင်းကြီး၏ ပေးလှူမှု ပြဿနာ)

၂ - ဒုက္ကရကာရိကပဉှာ (ဒုက္ကရစရိယာ အကျင့် ပြဿနာ)

၃ - ကုသလာကုသလဗလဝတရပဉှာ
(ကုသိုလ် အကုသိုလ်၏ အားကြီးမှု ပြဿနာ)

၄ - ပုဗ္ဗပေတာဒိသပဉှာ (ရှေးက သေလွန်ပြီးသူတို့အား ရည်ညွှန်း၍ လှူသော အလှူပြဿနာ)

၅ - သုပိနပဉှာ (အိပ်မက် ပြဿနာ)

၆ - အကာလမရဏပဉှာ (သေချိန်မရောက်မီ သေခြင်း ပြဿနာ)

၇ - စေတိယပါဋိဟာရိယပဉှာ (စေတီ တန်ခိုးပြခြင်း ပြဿနာ)

၈ - ဓမ္မာဘိသမယပဉှာ (မင်္ဂဖိုလ်ကို ထိုးထွင်း၍ သိခြင်း ပြဿနာ)

၉ - ဧကန္တသုခနိဗ္ဗာနပဉှာ (နိဗ္ဗာန်၏ စင်စစ် ချမ်းသာအတိ ဖြစ်ပုံ ပြဿနာ)

၁၀ - နိဗ္ဗာနရူပသဏ္ဌာနပဉှာ (နိဗ္ဗာန်၏ အဆင်း အသွင်သဏ္ဌာန် ပြဿနာ)

၁၁ - နိဗ္ဗာနသစ္ဆိကရဏပဉှာ (နိဗ္ဗာန်သို့ မျက်မှောက်ပြုပုံ ပြဿနာ)

၁၂ - နိဗ္ဗာနသန္နိဟိတပဉှာ (နိဗ္ဗာန်၏ တည်ရာ ပြဿနာ)

### ၄ - အနုမာနဝဂ်

၁ - အနုမာနပဉှာ (မှန်းဆ၍ 'မြတ်စွာဘုရားရှိကြောင်း' သိရပုံ ပြဿနာ)

၂ - ဓုတင်္ဂပဉှာ (ဓုတင်အကျင့် ပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

## ၆ - ဩပမ္မကထာပဉှာ မာတိကာ

### ၁ - ဂဒြဘဝဂ်

- ၁ - ဂဒြဘာဂ်ပဉှာ (မြည်း၏ အင်္ဂါပြဿနာ)
- ၂ - ကုက္ကုဋင်္ဂပဉှာ (ကြက်၏ အင်္ဂါပြဿနာ)
- ၃ - ကလန္ဒကင်္ဂပဉှာ (ရှဉ့်၏ အင်္ဂါပြဿနာ)
- ၄ - ဒီပိနိယင်္ဂပဉှာ (သစ်မ၏ အင်္ဂါပြဿနာ)
- ၅ - ဒီပိကင်္ဂပဉှာ (သစ်ဖို၏ အင်္ဂါပြဿနာ)
- ၆ - ကုမ္မင်္ဂပဉှာ (လိပ်၏ အင်္ဂါပြဿနာ)
- ၇ - ဝံသင်္ဂပဉှာ (ဝါး၏ အင်္ဂါပြဿနာ)
- ၈ - စာပင်္ဂပဉှာ (လေး၏ အင်္ဂါပြဿနာ)
- ၉ - ဝါယသင်္ဂပဉှာ (ကျီးငှက်၏ အင်္ဂါပြဿနာ)
- ၁၀ - မက္ကဋင်္ဂပဉှာ (မျောက်၏ အင်္ဂါပြဿနာ)

### ၂ - သမုဒ္ဒဝဂ်

- ၁ - လာဗုလတင်္ဂပဉှာ (ဗူးနွယ်၏ အင်္ဂါပြဿနာ)
- ၂ - ပဒုမင်္ဂပဉှာ (ပဒုမ္မာကြာ၏ အင်္ဂါပြဿနာ)
- ၃ - ဗီဇင်္ဂပဉှာ (မျိုးစေ့၏ အင်္ဂါပြဿနာ)
- ၄ - သာလကလျာဏိကင်္ဂပဉှာ (သာလကလျာဏီပင်၏ အင်္ဂါပြဿနာ)
- ၅ - နာဝင်္ဂပဉှာ (လှေ၏ အင်္ဂါပြဿနာ)
- ၆ - နာဝါလဂ္ဂနကင်္ဂပဉှာ (ကျောက်ဆူး၏ အင်္ဂါပြဿနာ)
- ၇ - ကူပင်္ဂပဉှာ (လင်းယဉ်တိုင်၏ အင်္ဂါပြဿနာ)
- ၈ - နိယာမကင်္ဂပဉှာ (လှေသူကြီး၏ အင်္ဂါပြဿနာ)
- ၉ - ကမ္မကာရင်္ဂပဉှာ (လှေထိုးသား၏ အင်္ဂါပြဿနာ)
- ၁၀ - သမုဒ္ဒင်္ဂပဉှာ (သမုဒ္ဒရာ၏ အင်္ဂါပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

## ၆ - ဩပမ္မကထာပဉှာ မာတိကာ

### ၃ - ပထဝီဝဂ်

၁ - ပထဝီအင်္ဂပဉှာ (မြေကြီး၏ အင်္ဂါပြဿနာ)
၂ - အာပင်္ဂပဉှာ (ရေ၏ အင်္ဂါပြဿနာ)
၃ - တေဇင်္ဂပဉှာ (မီး၏ အင်္ဂါပြဿနာ)
၄ - ဝါယင်္ဂပဉှာ (လေ၏ အင်္ဂါပြဿနာ)
၅ - ပဗ္ဗတင်္ဂပဉှာ (တောင်၏ အင်္ဂါပြဿနာ)
၆ - အာကာသင်္ဂပဉှာ (ကောင်းကင်၏ အင်္ဂါပြဿနာ)
၇ - စန္ဒင်္ဂပဉှာ (လ၏ အင်္ဂါပြဿနာ)
၈ - သူရိယင်္ဂပဉှာ (နေ၏ အင်္ဂါပြဿနာ)
၉ - သက္ကင်္ဂပဉှာ (သိကြားမင်း၏ အင်္ဂါပြဿနာ)
၁၀ - စက္ကဝတ္တိင်္ဂပဉှာ (စကြဝတေးမင်း၏ အင်္ဂါပြဿနာ)

### ၄ - ဥပစိကာဝဂ်

၁ - ဥပစိကင်္ဂပဉှာ (ခြ၏ အင်္ဂါပြဿနာ)
၂ - ဗိဠာရင်္ဂပဉှာ (ကြောင်၏ အင်္ဂါပြဿနာ)
၃ - ဥန္ဒူရင်္ဂပဉှာ (ကြွက်၏ အင်္ဂါပြဿနာ)
၄ - ဝိစ္ဆိကင်္ဂပဉှာ (ကင်းမြီးကောက်၏ အင်္ဂါပြဿနာ)
၅ - နကုလင်္ဂပဉှာ (မြွေပါ၏ အင်္ဂါပြဿနာ)
၆ - ဇရသိင်္ဂါလင်္ဂပဉှာ (မြေခွေးအို၏ အင်္ဂါပြဿနာ)
၇ - မိဂင်္ဂပဉှာ (သမင်၏ အင်္ဂါပြဿနာ)
၈ - ဂေါရူပင်္ဂပဉှာ (နွားအပေါင်း၏ အင်္ဂါပြဿနာ)
၉ - ဝရာဟင်္ဂပဉှာ (ဝက်၏ အင်္ဂါပြဿနာ)
၁၀ - ဟတ္ထိင်္ဂပဉှာ (ဆင်၏ အင်္ဂါပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်

## ၆ - ဩပမ္မကထာပဉှာ မာတိကာ

### ၅ - သီဟဝဂ်

၁ - သီဟင်္ဂပဉှာ (ခြင်္သေ့၏ အင်္ဂါပြဿနာ)

၂ - စက္ကဝါကင်္ဂပဉှာ (စက္ကဝါက်ငှက်၏ အင်္ဂါပြဿနာ)

၃ - ပေဏာဟိကင်္ဂပဉှာ (အောက်ချင်းငှက်၏ အင်္ဂါပြဿနာ)

၄ - ဃရကပေါတင်္ဂပဉှာ (အိမ်ခို၏ အင်္ဂါပြဿနာ)

၅ - ဥလူကင်္ဂပဉှာ (ခင်ပုပ်ငှက်၏ အင်္ဂါပြဿနာ)

၆ - သတပတ္တင်္ဂပဉှာ (ခေါက်ရှာငှက်၏ အင်္ဂါပြဿနာ)

၇ - ဝဂ္ဂုလိင်္ဂပဉှာ (လင်းနို့၏ အင်္ဂါပြဿနာ)

၈ - ဇလူကင်္ဂပဉှာ (မျှော့၏ အင်္ဂါပြဿနာ)

၉ - သပ္ပင်္ဂပဉှာ (မြွေ၏ အင်္ဂါပြဿနာ)

၁၀ - အဇဂရင်္ဂပဉှာ (စပါးကြီးမြွေ၏ အင်္ဂါပြဿနာ)

### ၆ - မက္ကဋကဝဂ်

၁ - ပန္ထမက္ကဋကင်္ဂပဉှာ (ပင့်ကူ၏ အင်္ဂါပြဿနာ)

၂ - ထနဿိတဒါရကင်္ဂပဉှာ (နို့စို့သူငယ်၏ အင်္ဂါပြဿနာ)

၃ - စိတ္တကဓရကုမ္မင်္ဂပဉှာ (ကုန်းလိပ်ပြောက်၏ အင်္ဂါပြဿနာ)

၄ - ပဝနင်္ဂပဉှာ (တောအုပ်၏ အင်္ဂါပြဿနာ)

၅ - ရုက္ခင်္ဂပဉှာ (သစ်ပင်၏ အင်္ဂါပြဿနာ)

၆ - မေဃင်္ဂပဉှာ (မိုး၏ အင်္ဂါပြဿနာ)

၇ - မဏိရတနင်္ဂပဉှာ (ပတ္တမြား၏ အင်္ဂါပြဿနာ)

၈ - မာဂဝိကင်္ဂပဉှာ (သားမုဆိုး၏ အင်္ဂါပြဿနာ)

၉ - ဗာဠိသိကင်္ဂပဉှာ (ငါးမျှားသူ၏ အင်္ဂါပြဿနာ)

၁၀ - တစ္ဆကင်္ဂပဉှာ (တစည်းသမား၏ အင်္ဂါပြဿနာ)

# မိလိန္ဒပဉှာပါဠိတော်



မိလိန္ဒပဉှာ မာတိကာ ပြီး၏။

------

# ခုဒ္ဒကနိကာယ်
# မိလိန္ဒပဉှာပါဠိတော်

မြန်မာပြန်

------

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

၁။ ဂင်္ဂါမြစ်သည် သမုဒ္ဒရာသို့ စီးဆင်းသက်ဝင်သကဲ့သို့ တိုင်းတကာတို့ထက် မြတ်သော (ယောနက) တိုင်း သာဂလမြို့တော်၌ (စိုးစံသော) မိလိန္ဒမည်သော မင်းသည် အသျှင်နာဂသေန မထေရ်မြတ်ထံသို့ ချဉ်းကပ်လေ၏။ ချဉ်းကပ်ပြီးသော် မိလိန္ဒမင်းသည် (ပညာဟူသော) မီးရှူးမီးတိုင်ကို ဆောင်သော၊ (သူတစ်ပါးတို့ ယုံမှားခြင်းဟူသော) အမိုက်တိုက်ကို ပယ်နုတ်နိုင်သော၊ ဆန်းကြယ်သော စကားကို ပြောဟောတတ်သော အသျှင်နာဂသေနမထေရ်မြတ်အား သိမ်မွေ့ နက်နဲကုန်သော အရာဟုတ်သည်၊ မဟုတ်သည်၌ ဖြစ်ကုန်သော များစွာသော အမေးပုစ္ဆာ ပြဿနာတို့ကို မေးလျှောက်လေ၏။ မိလိန္ဒမင်း၏ အမေးပုစ္ဆာတို့သည် လည်းကောင်း၊ အသျှင်နာဂသေန မထေရ်မြတ်၏ ဖြေရှင်းချက်တို့သည် လည်းကောင်း နက်နဲသော အနက်အဓိပ္ပါယ်ကို မှီကုန်၏။ ပညာရှိတို့ စိတ်နှလုံးသို့လည်း သက်ရောက်ကုန်၏။ ပညာရှိတို့၏ နားကိုလည်း ချမ်းသာစေနိုင်ကုန်၏။ မဖြစ်ဖူးမြဲ ဖြစ်ကုန်၏။ ကြက်သီးမွေးညင်း ထဖွယ်လည်း ဖြစ်ကုန်၏။ အသျှင်နာဂသေနမထေရ်၏ အဖြေစကားတို့သည်လည်း အဘိဓမ္မာပိဋကၤ ဝိနည်းပိဋကနှစ်ရပ်သို့လည်း သက်ဝင်ကုန်၏။ သုတ္တန်ဟူသော ကွန်ရက်နှင့် ပြည့်စုံကုန်၏။ ဥပမာ ပုံပြင်တို့ဖြင့်လည်းကောင်း၊ နည်းအမျိုးမျိုးတို့ဖြင့် လည်းကောင်း (အံ့ဩစဖွယ်) ဆန်းကြယ်လှ ကုန်၏။ ထိုဆိုပြီး ဂုဏ်နှင့် ပြည့်စုံသော မိလိန္ဒပဉှာကျမ်း၌ (သိမြင်နာယူရန် စွမ်းနိုင်သော) ဉာဏ်ကို မြဲစွာစိုက်ထား၍ စိတ်ကို ရွှင်ကြည်စေလျက် သိမ်မွေ့နက်နဲကုန်သော အမေးပုစ္ဆာပြဿနာတို့ကို လည်းကောင်း၊ ယုံမှားဖွယ်ရာကို ခွဲဖျက်နိုင် ကုန်သော အဖြေတို့ကို လည်းကောင်း နားထောင်ကြပါကုန်လော့။

၂။ ထိုမိလိန္ဒပဉှာကျမ်းကို အဘယ်သို့သော အကြောင်းရင်းမူလအားဖြင့် ကြားနာရမည်နည်းဟူမူ- ယောနကတိုင်းသူ တိုင်းသားတို့၏ ကုန်ထုပ်အမျိုးမျိုးကို ခွဲခြားဝေဖန်ရာ (အရောင်းအဝယ်ဗဟိုဌာန) ဖြစ်သော သာဂလမည်သော မြို့သည် ထင်ရှားရှိလတ်သတည်း။ (ထိုသာဂလမြို့သည်) မြစ်၊ ချောင်း၊ တောင်တန်းတို့ဖြင့် တင့်တယ်၏။ ပျော်မွေ့ဖွယ်ရာ မြေ မျက်နှာပြင် အစိတ်အပိုင်းတို့လည်း ရှိ၏။ အရံ၊ ဥယျာဉ်၊ တောတန်း၊ တစ်ဖက်ဆည်ကန်၊ လေးထောင့်ကန်တို့နှင့် ပြည့်စုံ၏။ မြစ်၏ မွေ့လျော်ဖွယ်၊ တောင်၏ မွေ့လျော်ဖွယ်၊ တော၏ မွေ့လျော်ဖွယ်နှင့်လည်း ပြည့်စုံ၏။ အကြားအမြင် ဗဟုသုတရှိသူတို့ ဖန်ဆင်း တည်ထောင်အပ်သော မြို့လည်း ဖြစ်၏။ ရန်သူတို့ကို ပယ်ရှားပြီးဖြစ်၍ ရန်သူတို့ မဖျက်ဆီး မနှိပ်စက်နိုင်။ အထူးထူးအပြားပြား ဆန်းကြယ်၍ မြဲမြံခိုင်ခံ့သော ပြအိုး, တံခါးမုခ်ရှိ၏။ အတိုင်းထက်အလွန် ကောင်းမြတ်သော တံခါးခုံ, တုရိုဏ်တိုင်လည်း ရှိ၏။ နက်စွာသော ကျုံးမြောင်း, ဖွေးဖွေးဖြူသော တံတိုင်းတို့ဖြင့် ဝန်းရံအပ်သော မြို့တွင်းနန်းတော်လည်း ရှိ၏။ ကောင်းစွာ ခွဲခြား ဝေဖန်အပ်သော လမ်းကြီး, လမ်းငယ်, လမ်းလေးခွ လမ်းဆုံရှိ၏။ တင့်တယ် သပ်ယပ်စွာ ဖြန့်ခင်း ရောင်းချအပ်သော တန်ဖိုးရှိသော ကုန်စည်ပစ္စည်း အမျိုးမျိုးတို့ဖြင့် ပြည့်နှက်သည့် ဈေးတော်ကြီးလည်း ရှိ၏။ အလှူမဏ္ဍပ် အမျိုးမျိုးတို့ဖြင့် အမြဲအစဉ် တင့်တယ်၏။ ဟိမဝန္တာ တောင်ထွတ်နှင့်တူသော လွန်ကဲ မြင့်မြတ်သည့် နန်းဘုံဗိမာန် အသိန်းတို့ဖြင့် တန်ဆာဆင်ယင်အပ်၏။ ဆင်, မြင်း, ရထား, ခြေသည်ဟူသော စစ်အင်္ဂါတို့ဖြင့် ပြွမ်း၏။ အဆင်းလှသော ယောကျ်ား၊ မိန်းမအပေါင်းတို့ မပြတ်လှည့်လည်ရာ ဖြစ်၏။ လူမျိုးစုံတို့ဖြင့် ရောပြွမ်း ပြည့်ကြပ်နေ၏။ များပြားသောမင်း၊ ပုဏ္ဏား၊ကုန်သည်၊ ဆင်းရဲသားမျိုးတို့၏ နေရာဖြစ်၏။

အညီအမျှ ခွဲခြား ဝေဖန်ထားသည့် အမျိုးမျိုး အစားစားသော သမဏဗြာဟ္မဏတို့နှင့် စပ်ယှဉ်၏။ မြောက်မြားစွာသော အတတ်ပညာ ပညာရှိသူတို့ ကြာမြင့်စွာ နေထိုင်ရာဖြစ်၏။ ကာသိတိုင်း ကောဋုမ္ဗရ တိုင်းဖြစ်စသော အထူးထူး အပြားပြားသော အထည်စျေးရုံတို့နှင့် ပြည့်စုံ၏။ ကောင်းစွာ ဖြန့်ခင်းအပ်၍ စိတ်နှစ်သက်ဖွယ်ရာ များပြားစွာသော ပန်းစျေး, နံ့သာစျေး ရှိ၏။ အမွှေးနံ့သာတို့ဖြင့် မွှေးကြိုင်လျက် ရှိ၏။ တောင့်တလိုချင်ဖွယ်ရာ များစွာသော ရတနာမျိုးတို့နှင့် ပြည့်စုံ၏။ ထိုထိုအရပ်သို့ ရှေးရှု ဖြန့်ခင်း အပ်သော စျေးဆိုင်ရှိ၏။ တင့်တယ်ဖွယ်ရာ လိမ္မာကျွမ်းကျင်သော ကုန်သည် အပေါင်းတို့၏ မပြတ် ကျက်စားရာ ဖြစ်၏။ အသပြာငွေ၊ ရွှေ၊ ကြေးတို့ကို ခင်းကျင်းထားသော ဆိုင်တို့ဖြင့် ပြည့်၏။ တပြောင် ပြောင် တောက်သော အိမ်ဆောင် ဘုံနန်းရှိ၏။ များစွာသော ဥစ္စာစပါး, အသုံးအဆောင်, လက်ဝတ် လက်စား ရှိ၏။ ပြည့်လျှံသော ကျီကြရှိ၏။ များစွာသော ထမင်း, အဖျော်ရှိ၏။ နှစ်သက်ဖွယ်ရာ များစွာ သော ခဲဖွယ်၊ စားဖွယ်၊ လျက်ဖွယ်၊ သောက်ဖွယ်ရှိ၏။ ဥတ္တရကုရုကျွန်းနှင့် တူ၏။ ပြည့်စုံသော ကောက် စပါးရှိ၏။ အာဠကမန္ဒာမည်သော နတ်မြို့တော်နှင့် တူ၏။

ဤအရာ၌ ပုဗ္ဗဝိသဇ္ဇနာအချက်ကို ဆိုင်းငံ့ရပ်ထား၍ ထိုမိလိန္ဒမင်းနှင့် အသျှင်နာဂသေနမထေရ် မြတ်တို့၏ ရှေးကံ အကြောင်းရင်းကို ပြဆိုသင့် ပြဆိုထိုက်၏။ ပြဆိုသော ဆရာသည်လည်း ခြောက်ပါး အပြားဖြင့် ဝေဖန်ပိုင်းခြားကာ ပြဆိုသင့် ပြဆိုထိုက်၏။ ခြောက်ပါးအပြားဟူသည် အဘယ်နည်း- ရှေးဆုတောင်းခန်း၊ မိလိန္ဒမင်း၏ ပြဿနာခန်း၊ မှတ်ကြောင်းလက္ခဏာကို မေးခန်း၊ ဆိတ်ချိုနှင့်တူစွာ ကောက်တကျစ် မေးခွန်းအခန်း၊ အနုမာန (မှန်းဆသော)အားဖြင့် မေးသောအခန်း၊ ဥပမာစကားကို မေးသောအခန်း ဤသို့ အခန်းခြောက်ပါး အပြားရှိ၏။

ထိုခြောက်ခန်းတို့တွင် မိလိန္ဒပဥှာသည် လက္ခဏာပဥှာအခန်းနှင့် ယှဉ်မှားသော အရာကို ပယ်ဖျောက် သော ပြဿနာ မေးခွန်း အခန်းဟု နှစ်ခန်းရှိ၏။

ဆိတ်ချိုနှင့် တူစွာ ကောက်တကျစ် အမေးမေဏ္ဍကပဥှာသည်လည်း မဟာဝဂ်နှင့် ယောဂီပုဂ္ဂိုလ်တို့ ကို မေးသော အခန်းဟု နှစ်မျိုးရှိ၏။

------

## (ရှေးဆုတောင်း ပုဗ္ဗယောဂ)

(ထိုအခန်းခြောက်မျိုးတို့တွင်) ရှေးဆုတောင်းခန်းဟူသည် ထိုမိလိန္ဒမင်းနှင့် အသျှင်နာဂသေန မထေရ်မြတ်တို့၏ ရှေး၌ ပြုအပ်သော ကံအကြောင်းရင်းတည်း။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

### ပုဗ္ဗယောဂစသည်

၃။ တစ်ဆင့်စကား ကြားရဖူးသည်ကား- ရှေးလွန်လေပြီးသောအခါ ကဿပမြတ်စွာဘုရား၏ သာသနာတော် တည်ထွန်းဖြစ်ပေါ်လတ်သော် ဂင်္ဂါမြစ်၏အနီး ကျောင်းတိုက်တစ်ခု၌ ရဟန်းသံဃာ အများ (သီတင်းသုံး) နေထိုင်လေ၏။ ထိုကျောင်းတိုက်၌ ဝတ်ကြီး, ဝတ်ငယ် အကျင့်သီလနှင့် ပြည့်စုံ ကုန်သော ရဟန်းတို့သည် နံနက်စောစော ထကုန်၍၊ အရိုးရှည် တံမြက်စည်းတို့ကို ယူကြကုန်ပြီးလျှင်၊ မြတ်စွာဘုရား ဂုဏ်ကျေးဇူးတို့ကို ဆင်ခြင်ကုန်လျက်၊ ကျောင်းတလင်းကို တံမြက်လှည်းကြကုန်၍ အမှိုက် သရိုက် စုပုံခြင်းကို ပြုလုပ်ကြကုန်၏။ ထိုအခါ ရဟန်းတစ်ပါးသည် သာမဏေတစ်ဦးကို "သာမဏေ လာလေ့၊ ဤတံမြက်ချေးကို စွန့်ပစ်ချေလော့" ဟု ပြောဆို၏။ ထိုသာမဏေသည် မကြားယောင်ပြု၍ သွားလေ၏။ နှစ်ကြိမ်, သုံးကြိမ်တိုင်တိုင် ခေါ်အပ်သော်လည်း ထိုသာမဏေသည် မကြားယောင်ပြု၍ သွားမြဲသွားသည် သာတည်း။ ထို့နောက် ထိုရဟန်းသည် "ဤသာမဏေကား အပြောရခက်လှလေစွ" ဟု အမျက်ထွက်၍ တံမြက်စည်းရိုးဖြင့် ရိုက်ပုတ်လေ၏။ ထိုသို့ ရိုက်ပုတ်ခြင်းကြောင့် ထိုသာမဏေသည် ငိုလျက် ကြောက်ရွံ့သဖြင့် တံမြက်ချေးကို စွန့်ပစ်စဉ် "အကျွန်ုပ်သည် တံမြက်ချေးကို စွန့်ပစ်ရသော ကောင်းမှုကြောင့် နိဗ္ဗာန်ရောက်သည့် တိုင်အောင် ဤအတွင်း ဖြစ်လေရာရာ ဘဝ၌ မွန်းတည့်နေကဲ့သို့ ဘုန်းကံကြီးသူ၊ တန်ခိုးတေဇော်ကြီးသူ ဖြစ်ရပါလို၏" ဟု ပထမအကြိမ် ဆုတောင်း၏။ တံမြက်ချေးကို စွန့်ပစ်ပြီးနောက် ရေချိုးရန် ဂင်္ဂါမြစ်ဆိပ်သို့ သွားပြန်ခဲ့သော် တဝုန်းဝုန်းမြည်နေသော မြစ်၏ လှိုင်းတံပိုး အဟုန်ကို မြင်ရပြန်၍ "အကျွန်ုပ်သည် နိဗ္ဗာန်ရောက်သည့် တိုင်အောင် ဤအတွင်း ဖြစ်လေရာရာ ဘဝ၌ ဤလှိုင်းတံပိုး အဟုန်ကဲ့သို့ အရာအားလျော်စွာ ဖြစ်ပေါ်လာသော ဉာဏ်ပဋိဘာန်ရှိသူ၊ မကုန်နိုင်သော ဉာဏ်ပဋိဘာန်ရှိသူ ဖြစ်ရပါလို၏"ဟု ဒုတိယ အကြိမ် ဆုတောင်းပြန်၏။

ထိုသာမဏေကို စေခိုင်းသော ရဟန်းသည်လည်း တံမြက်စည်းထားရာစင်၌ တံမြက်စည်းကိုထား၍ ရေချိုးရန် ဂင်္ဂါ မြစ်ဆိပ်သို့ သွားလတ်သော် သာမဏေ၏ ဆုတောင်းသံကို ကြားရသဖြင့် "ငါစေခိုင်း အပ်သော ဤသာမဏေသည်ပင် ဤမျှလောက် ဆုတောင်းဘိသေး၏။ ငါ့အား အဘယ်မှာ (ဆုတောင်း) မပြည့်စုံဘဲ ရှိလိမ့်မည်နည်း" ဟု ကြံစည်၍ "ငါသည် နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် ဤအတွင်း ဖြစ်လေရာရာ ဘဝ၌ ဤဂင်္ဂါမြစ်၏ လှိုင်းတံပိုးအဟုန်ကဲ့သို့ မကုန်နိုင်သော ဉာဏ်ပဋိဘာန်ရှိသူ ဖြစ်ရပါ လို၏၊ ဤသာမဏေ မေးတိုင်းမေးတိုင်းသော ပြဿနာအလုံးစုံကို ရှင်းလင်းရန်၊ ဖြေရှင်းရန် စွမ်းနိုင်သူ ဖြစ်ရပါလို၏" ဟု ဆုတောင်းလေ၏။

ထိုသူနှစ်ဦးတို့သည်လည်း နတ်ဘုံ၊ လူ့ဘုံ လှည့်လည်ကျင်လည်ကုန်လျက် ကဿပမြတ်စွာဘုရားနှင့် ငါတို့ မြတ်စွာဘုရား၏ တစ်ခုသော အကြားကို ကုန်လွန်စေကြကုန်၏။ ထို့နောက် ငါတို့၏ မြတ်စွာ ဘုရားသည်လည်း မောဂ္ဂလိပုတ္တ တိဿထေရ်ကို ဗျာဒိတ်ညွှန်ကြားတော် မူအပ်သကဲ့သို့၊ ထို့အတူ ထိုသူ နှစ်ဦးတို့ကိုလည်း ဗျာဒိတ် ညွှန်ကြားအပ်ကုန်၏ "ငါဘုရား ပရိနိဗ္ဗာန်စံလွန်သည်မှနောက် နှစ်ပေါင်း ငါးရာ ကျော်လွန်လတ်သော် ထိုသူနှစ်ဦးတို့သည် ဖြစ်ပေါ်လာကုန်လတ္တံ့။ ထိုသူနှစ်ဦးတို့သည် သိမ်မွေ့ နက်နဲစွာပြု၍ ငါဟောကြားအပ်သော ထိုသုတ်၊ အဘိဓမ္မာ၊ ဝိနည်းတရားတော်ကို ပြဿနာမေးခွန်း၊ ဉပမာ ဉပမေယျ၊ ညီမျှသင့်တင့်သော နည်းတို့၏ အစွမ်းဖြင့် အရှုပ်အထွေး မရှိအောင် ပြု၍ ဝေဖန်ကြ ကုန်လတ္တံ့" ဟု ဗျာဒိတ် ညွှန်ကြားအပ်ကုန်၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## မိလိန္ဒမင်းအကြောင်း

၄။ ထိုသူနှစ်ဦးတို့တွင် သာမဏေသည် ဇမ္ဗူဒိပ်ကျွန်း သာဂလမြို့၌ မိလိန္ဒမည်သော မင်းဖြစ်လေ၏။ (ထိုမင်းသည်) အသိဉာဏ်ရှိသူ၊ လိမ္မာသူ၊ ထိုးထွင်းဉာဏ်ရှိသူဖြစ်၍ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ဖြစ်ကုန်သော ပညာနှင့် ယှဉ်၍ စီရင်ခြင်း၊ ပြုလုပ်ခြင်းတို့ကို စွမ်းဆောင်နိုင်၏။ ပြုလုပ်သော အခါ၌လည်း စူးစမ်းဆင်ခြင်၍ ပြုလုပ်လေ့ရှိ၏။ အထူးအားဖြင့် ထိုမိလိန္ဒမင်းသည် များစွာသော ကျမ်းဂန် အတတ်တို့ကို သင်ယူအပ်ကုန်၏။

------

## အတတ်တစ်ဆယ့်ကိုးမျိုး

ထိုမင်း သင်အပ်သော ကျမ်းဂန် တို့ဟူသည် အဘယ်နည်း-

သုတိ-ဝေဒကျမ်း[၁]၊ သမိတိ-ကမ္ဘာ့ဥပဒေသကျမ်း[၂]၊ သင်္ချာ-သင်္ချာခေါ် အဘိဓမ္မာကျမ်း[၃]၊ ယောဂ-ယောဂခေါ် အဘိဓမ္မာကျမ်း[၄]၊ နီတိ-နီတိကျမ်း[၅]၊ ဝိသေသိက-ဝိသေသိကခေါ် အဘိဓမ္မာကျမ်း[၆]၊ ဂဏိတ-အတွက်အချက် -သင်္ချာကျမ်း[၇]၊ ဂန္ဓဗ္ဗ-အတီးအမှုတ် တူရိယာ-ပညာကျမ်း[၈]၊ တိကိစ္ဆ-ဆေးကုခြင်း အတတ်ကိုပြသော တိကိစ္ဆကျမ်း[၉]၊ ဓနုဗ္ဗေဒ-ဓနုဗ္ဗေဒ ကျမ်း[၁၀]၊ ပုရာဏ-ပုရာဏ်ကျမ်း[၁၁]၊ ဣတိဟာသ-ဣတိဟာသကျမ်း[၁၂]၊ ဇောတိသ-ဇောတိသခေါ် ဗေဒင်ကျမ်း[၁၃]၊ မာယာ-လှည့်စားခြင်း-အလိမ္မာသုံးခြင်းကို ပြသော မာယာကျမ်း[၁၄]၊ ဟေတု-တက္ကဗေဒခေါ် ဟေတုဝိဇ္ဇာကျမ်း[၁၅]၊ မန္တန-မန္တာန်ကျမ်း[၁၆]၊ ယုဒ္ဓါ-ယုဒ္ဓကျမ်း[၁၇]၊ ဆန္ဒသာ-ဆန်းကျမ်း[၁၈]၊ ဗုဒ္ဓဝစန မြတ်စွာဘုရား ပါဠိတော်နှင့်တကွ တစ်ဆယ့်ကိုးပါးသော ကျမ်းအတတ်တို့ကို သင်ယူအပ်ကုန်၏။ ပညာရှိတို့ စိတ်နှလုံးကို တုန်လှုပ်အောင် ပြောဆိုတတ်၏။ သူတစ်ပါးတို့က ညှဉ်းဆဲနိုင်ခဲ၏။ သူတစ်ပါးတို့က နှိမ်နင်းခြင်းငှါ ခက်ခဲ၏။ များစွာသော အယူကို တီထွင်သူတို့တွင် အထွတ်အမြတ်ဟု ဆိုထိုက်၏။ ဉာဏ်အစွမ်းအားဖြင့် လည်းကောင်း၊ ဉာဏ်လျင်လျားခြင်းအားဖြင့် လည်းကောင်း၊ ရဲရင့်ခြင်းအားဖြင့် လည်းကောင်း၊ ပညာအားဖြင့် လည်းကောင်း ဇမ္ဗူဒိပ်ကျွန်းလုံး၌ မိလိန္ဒမင်းနှင့်တူသောသူ တစ်ဦးတစ်ယောက်မျှ မဖြစ်ပေ။ ပစ္စည်းဥစ္စာ ကြွယ်ဝ၏။ များသော ဥစ္စာရှိ၏။ များသော စည်းစိမ်ရှိ၏။ များစွာသော စစ်သည်, ဗိုလ်ပါ, ဆင်ယာဉ် စသည် ရှိ၏။

------

၁။ ဣရု, ယဇု, သာမ-ဟူသော ဝေဒကျမ်းရင်း သုံးပုံနှင့် နောက်တိုးသော အထဗ္ဗဏကျမ်းပါ ဝေဒလေးပုံ။

၂။ ဗြဟ္မာကြီး၏ ဟောကြားချက်မှ လူသားဆရာတို့ မှတ်သားမိသမျှ ရေးသားထားသော မနုဓမ္မသတ် စသော ကျမ်းများနှင့် ကမ္ဘာသူ ကမ္ဘာသားတို့ စောင့်စည်းအပ်၊ ရှောင်ကြဉ်အပ်၊ လိုက်နာ ဆောင်ရွက် အပ်သော ဥပဒေသအားလုံး။

၃။ တတွခေါ် ပရမတ္ထသဘောတရား နှစ်ဆယ့်ငါးပါး၏ သရုပ်သဘောကို ရေတွက်စီစစ်သော ကျမ်းဖြစ် သည်။ ၎င်းသင်္ချာ အဘိဓမ္မာကို ကပိလရသေ့ တည်ထောင်သည်။ သင်္ချာအဘိဓမ္မာနှင့် စပ်လျဉ်းသော ရှေးအကျဆုံး စာအုပ်များသည် သင်္ချာပါဝစနသုတ္တနှင့်တတွ ပမာသတို့ ဖြစ်ကြ၏။ ၎င်းနှစ်အုပ်ကို ကပိလရသေ့ စီရင်သည်ဟု အဆိုရှိကြသော်လည်း ထင်ရှားသော အထောက်အထား မရှိချေ။ သမိုင်း မှတ်တမ်းအရ ကပိလရသေ့သည် စာအုပ် ရေးသားစီရင်မှု မပြုခဲ့ဘဲ ၎င်း၏ပညာကို အာသူရိအား သင်ကြားပေးခဲ့၍ အာသူရိက ပဥ္စသီခကို တစ်ဆင့်

သင်ကြားပေးခဲ့သည်ဟု ဆိုပေသည်။ သို့ဖြင့် အထက်ပါ ကျမ်းနှစ်ကျမ်းသည် ပေါ်ပေါက်ခဲ့၏။ သင်္ချာအဘိဓမ္မာနှင့် စပ်လျဉ်း၍ စံယူလောက်သော စာအုပ်မှာ ဤဆွရကရိသ္သန ရေးသော "သင်္ချာကာရိကာ" ပင် ဖြစ်လေသည်။

၄။ ပုဂ္ဂိုလ်အသီးသီး၏ ဇီဝအတ္တကို ဣဿရ၊ သို့မဟုတ် ပရမအတ္တနှင့် ပေါင်းဆုံနိုင်ရန် သမထ ကမ္မဋ္ဌာန်းများကို ဖော်ပြသော ကျမ်းဖြစ်သည်။ ယောဂအဘိဓမ္မာသည် သင်္ချာအဘိဓမ္မာကို အမှီပြု သည်။ ထိုယောဂအဘိဓမ္မာကို တည်ထောင် သူမှာ ပတဉ္စလီရသေ့ဖြစ်သည်။ ရှေးအကျဆုံးသော ယောဂ အဘိဓမ္မာစာအုပ်သည် ပတဉ္စလီရသေ့၏ "ယောဂသုတ္တ" ပင်ဖြစ်၏။ ဗျာသဆရာရေးသော "ဘာသာ" မည်သော ယောဂအဘိဓမ္မာ အဖွင့်ကျမ်းနှင့် ဝိညာဏဘိက္ခု၏ အဘိဓမ္မာ အဖွင့်ကျမ်း အပြင် ဝိညာဏဘိက္ခု၏ "ယောဂဝုတ္တိကာ" နှင့် "ယောဂသာရသင်္ဂဟ" စသော ကျမ်းများလည်း ရှိကြသေးသည်။

၅။ နိုင်ငံအုပ်ချုပ်ရေးကို ညွှန်ပြသော ရာဇနီတိ, အမျိုးလေးပါးတို့၏ ယဉ်ကျေးမှုကို ညွှန်ပြသော လောက နီတိ, အကျင့်သိက္ခာ စောင့်စည်းမှုကို ညွှန်ပြသော ဓမ္မနီတိစသော ကျမ်းများ။

၆။ အမြဲတည်တံ့၍ အားလုံးသော အရာတို့ထက် ထူးခြားသော ပထဝီ, အာပေါ, တေဇော, ဝါယော, အာကာသ, ကာလ, ဒိသာ, အတ္တမနဟူသော ပရမတ္ထတရားကိုးမျိုးကို ခွဲခြားသိခြင်းအားဖြင့် သစ္စာ ဉာဏ်ကို ရအပ်သည်ဟု ဖော်ပြသောကျမ်း။ ဤဝိသေသိကအဘိဓမ္မာကို ကဏာဒဟူ၍ လည်း ကောင်း၊ ကဏာဘုဇဟူ၍ လည်းကောင်း၊ ကဏာဘက္ခဟူ၍ လည်းကောင်း ထင်ရှားသော ရသေ့ ပညာ ရှိ တီထွင်အပ်သည်။ ၎င်း၏ အမည်ရင်းမှာ ကဿပဖြစ်သော်လည်း ဖော်ပြပါ ပရမတ္ထတရားတို့ကို အဏုမြူခေါ် အသေးငယ်ဆုံး အစိတ်အပိုင်းတိုင်အောင် ခွဲခြမ်းစိတ်ဖြာ၍ ဖော်ပြနိုင် သောကြောင့် အဏုမြူကို စားသူဟု အဓိပ္ပါယ်ရှိသော ကဏာဒ, ကဏာဘုဇ, ကဏာဘက္ခ အမည်များဖြင့် ထင်ရှား နေရပေသည်။

၇။ ဂဏန်းဖြင့် တွက်ချက်သော ဂဏန်းသင်္ချာ, အက္ခရာဖြင့် တွက်ချက်သော အက္ခရသင်္ချာ, အရေး အကြောင်းဖြင့် တွက်ချက်သော ရေခသင်္ချာ (ဂဲသြမေထရီ)။ ဂဏိကဟု ပုဒ်နေရှိတတ်သည်။ များစွာ သော သဒ္ဒကရိုက်မူ၊ ပြာကရိုက်မူတို့၌ ဂဏိတချည်းသာ ရှိကြသည်။

၈။ ဆာမိုနာဝီလျံ၏ အဘိဓာန်၌ အနက်များစွာ ဖွင့်ဆို၏။ ၎င်းတို့တွင် နတ်သီချင်းသည်, နတ်အတီး အမှုတ်သည်ဟု ပါရှိသည်။ ဂန္ဓဗ္ဗ ဝိဇ္ဇာပုဒ်၏ အနက်ကိုကား အတီးအမှုတ် တူရိယာပညာဟု ဖွင့်ဆို သည်။ အဘယာရာမ ဆရာတော်၏ အဘိဓာန် နိဿယသစ်၌ ဂန္ဓဗ္ဗဗေဒကို သံဂီတကျမ်းဟု ပြန်ဆို ၍၊ အရှင်အာဒိစ္စဝံသ၏ မိလိန္ဒပဉှာ နိဿယ၌ ဂန္ဓဗ္ဗကို သံဂီတမူလကျမ်းဟု ပြန်ဆိုသည်။ ၎င်းသံဂီတ ပုဒ်ကို သံဂီတရတ္နာကရ၌ "နစ္စံ ဂီတံတထာဝါဒ္ဒံ (ဝဇ္ဇံ)၊ တယံ သံဂီတ မုစ္စတေ" ဟု ကခြင်း၊ သီဆို ခြင်း၊ တီးမှုတ်ခြင်း သုံးမျိုးလုံးကို သံဂီတခေါ်ကြောင်း ပြဆို၍ ဆာမိုနာဝီလျံက သာမန် သီဆို, တီးမှုတ်ခြင်းအပြင် အစုအဖွဲ့နှင့် တစ်စုတစ်ပေါင်းတည်း သံပြိုင် သီဆို, တီးမှုတ်, ကခုန်ခြင်း ဖဟု ပြန်ဆိုသည်။

၉။ စရက, သုဿုတ, ဘာဝပ္ပကာသ စသော ဆေးကျမ်းများဟု ပြန်ဆိုကြသည်။

၁၀။ လေးအတတ်ကို ပြသောကျမ်း။ စတုဗ္ဗေဒဟု ပါဌ်ရှိနေတတ်သည်။ စတုဗ္ဗေဒဆိုလျှင် ဝေဒလေးကျမ်း ကို ဆိုသဖြင့် သုတိ၌ ပါဝင်ပြီးဖြစ်သည်။ သဒ္ဒကရိုက်ကျမ်းအားလုံးတွင် ဓနုဗ္ဗေဒချည်းသာရှိသည်။

၁၁။ ရှေးဟောင်း ကမ္ဘာ့အဖြစ်သနစ် အခြင်းအရာ အစုံအလင် ပုရာဏကျမ်းသည် တစ်ဆယ့်ရှစ်ကျမ်း ရှိသည်ဟု ဆို သည်။

၁၂။ "ဤသို့ ဖြစ်သတတ်" ဟု ပြောဆိုလေ့ရှိသော မဟာဘာရတစသည် ရာဇဝင်ပုံပြင် နိပါတ်နှင့် ရှေးစကားများ။

၁၃။ ကောင်းကင်ရှိ နေ၊ လ၊ ဂြိုဟ်၊ နက္ခတ်တို့၏ အသွားအလာကို တွက်ချက် ဟောပြောသော သူရိယ သိဒ္ဓန္တစသော ကျမ်းမျိုးများ။

၁၄။ လိမ်လည်ကောက်ကျစ်ခြင်း, မျက်လှည့်ပြခြင်း အနက်များကိုသာ အဓိပ္ပါယ် ကောက်ယူလေ့ ရှိကြ သည်။ မင်း၏ ဂုဏ်ကိုပြသော နေရာဖြစ်၍ ရာဇမာယာဟု ဆိုအပ်သော ပရိယာယ် ဥပါယ်မျိုးကို ယူလျှင် သင့်မည်ဟု ထင်သည်။ ဥပါယ်လေးမျိုးကား ဘေဒဥပါယ်, သာမဥပါယ်, ဒါနဥပါယ်, ဒဏ္ဍ ဥပါယ်တို့ ဖြစ်ကြ၏။

၁၅။ ဆာမိုနာဝီလျံ၏ အဘိဓာန်၌ အကျိုးအကြောင်း, ဆင်ခြင်တုံပညာ, အခြေအတင်, ဝေဖန်စီစစ်ခြင်း ပညာဟု အဓိပ္ပါယ် ပြန်ဆိုသည်။ ကေတုဟု ပုဒ်နေရှိတတ်သည်။ ကေတုသဒ္ဒါသည် ကိတ်ဂြိုဟ်, အန္တလိက္ခကိတ်, ဘောမကိတ်စသော အနက်ကို ဟောသည်။ ၎င်းတို့အကြောင်းကို တွက်ချက်ဟော ပြောသော ကျမ်းဟု ဆိုလိုလျှင်လည်း ဤအချက်သည် ဇောတိသကျမ်း၌ ပါဝင်ပြီးဖြစ်၍ ပုနရုတ္တိ ဖြစ်ဖွယ်ရှိပေသည်။ ၎င်းပြင် ကေတုကို "ကေတုဘ" ဖြစ်သင့်သည်ဟု ကြံ၍ "အလင်္ကာကျမ်း" ဟု အနက် ဆိုကြပြန်သည်။ မုဒ္ဒဇနှင့်ကေဋ္ဋုဘသည်သာ အလင်္ကာကျမ်း ဟု အနက်ထွက်၍ ဒန္တဇနှင့် ကေတုဘသည် မိုးတိမ်ဟူသော အနက်ထွက်ရကား ဤနေရာနှင့် ကွာလှမ်းလွန်းလှ၏။ ထို့ကြောင့် ဟေတုသည်သာ ဤနေရာနှင့် သင့်မြတ်ပေသည်။ တရုတ်ရဟန်းတော် ဟီယန်ဆင်သည် နာဋ္ဌန္ဒ တက္ကသိုလ်၌ ပညာသင်ယူစဉ် သင်ယူရသော ပညာရပ်တို့တွင် ဤဟေတုဝိဇ္ဇာခေါ် တက္ကဗေဒ ပညာရပ် တစ်ရပ်လည်း ပါဝင်ကြောင်းနှင့် ၎င်း၏ မှတ်တမ်းတွင် ပါရှိသည်။

၁၆။ ဂါထာ မန္တာန် သရဇ္ဈာယ်နည်း, ယဇ်ပူဇော်နည်း စသည်များ။
၁၇။ စစ်နှင့် ဆိုင်သော အတတ်ကို ပြသော ကျမ်း။
၁၈။ ဝေဒဆိုင်ရာ ဂါထာကျမ်းနှင့် ကဗျာလင်္ကာအစီအကုံးဆိုင်ရာ ကျမ်းများ။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

### ပညာရှိစူးစမ်းခန်း

၅။ ထိုအခါ တစ်နေ့သ၌ မိလိန္ဒမင်းသည် များစွာသော စစ်သည်, ဗိုလ်ပါ, ဆင်ယာဉ်, မြင်းယာဉ် စသည့် စစ်အင်္ဂါ လေးပါးရှိသော စစ်အင်ကျင်းပပွဲကို ရှုစားတော်မူလိုသဖြင့် သာဂလမြို့မှ ထွက်တော်မူ၍၊ မြို့၏ ပြင်ပ၌ စစ်အင်ကျင်းပပွဲ ကို ရှုစားတော်မူ၍ ပြီးဆုံးလတ်သော် စကားပြောဆိုလိုသော ထိုမိလိန္ဒမင်းသည် လောကကို ချဲ့ထွင်တတ်သူ၊ ပညာရှိတို့၏ စိတ်နှလုံးကို တုန်လှုပ်စေတတ်သော သူတို့နှင့် ဆွေးနွေးပြောဆိုမှု၌ စိတ်အားထက်သန်သည် ဖြစ်ရကား ရဲရဲရင့်ရင့် တင့်တယ် စမ္မယ်လျက် နေကို မော့ကြည့်ပြီးလျှင် အမတ်တို့ကို ပြောဆိုတိုင်ပင်တော် မူ၏ "အချင်းအမတ်တို့ အချိန်များစွာ ကျန်ရှိသေး၏။ အဘယ်ကို ပြုလုပ်ရကုန်အံ့နည်း။ ယခုပင်လျှင် မြို့တွင်းသို့ ဝင်၍ တပည့်သံဃာရှိသော၊ ဂိုဏ်းရှိသော၊ ဂိုဏ်းဆရာ ဖြစ်သော၊ ပူဇော်အထူးကို ခံထိုက်၍ သမ္မာသမ္ဗုဒ္ဓဟူ၍ပင် ဝန်ခံသော သမဏ ဖြစ်စေ၊ ဗြာဟ္မဏဖြစ်စေ တစ်စုံတစ်ယောက်သော ပညာရှိသူသည် ရှိသည်ဖြစ်ရာ၏။ အကြင် ပညာရှိသည် ငါနှင့်အတူတကွ ပြောဆိုတိုင်ပင်ခြင်းငှါ၊ ငါ၏ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းနိုင်၏။ ထိုပညာရှိထံသို့ ချဉ်းကပ်၍ အမေးပုစ္ဆာပြဿနာကို မေးမြန်းကုန်အံ့။ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ကုန်အံ့" ဟု (ပြောဆိုတိုင်ပင်တော်မူ၏)။

ဤသို့ ပြောဆိုလတ်သော် ငါးရာသော ယောနကအမတ်တို့သည် မိလိန္ဒမင်းအား ဤသို့သော စကားကို လျှောက်ထား ကြကုန်၏ "မင်းမြတ် ပူရဏကဿပ၊ မက္ခလိဂေါသာလ၊ နိဂဏ္ဌနာဋပုတ္တ၊ သဉ္စယဗေလဋ္ဌပုတ္တ၊ အဇိတကေသကမ္ဗလ၊ ပကုဓကစ္စာယနဟု ခြောက်ဦးသော ဂိုဏ်းဆရာကြီးတို့သည်[၁] ရှိကြပါကုန်၏။ ထိုသူတို့သည် တပည့်အပေါင်းနှင့် ပြည့်စုံ ကုန်၏။ ဂိုဏ်းနှင့်လည်း ပြည့်စုံကုန်၏။ ဂိုဏ်းဆရာတို့လည်း ဖြစ်ကုန်၏။ ထင်ရှားကြပါကုန်၏။ ကျော်စောကြပါကုန်၏။ အယူဝါဒတီထွင်သူတို့ ဖြစ်ကြပါကုန်၏။ လူအများက သူတော်ကောင်းဟု သမုတ်ထားသူတို့ ဖြစ်ကြပါကုန်၏။ မင်းမြတ် အရှင်မင်းမြတ်သည် ကြွချီတော်မူပါ။ ထိုဂိုဏ်းဆရာကြီးတို့အား အမေးပုစ္ဆာပြဿနာကို မေးမြန်းတော်မူပါ။ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်တော်မူပါ" ဟု (လျှောက်ထားကြကုန်၏)။

------

၁။ ဘုရားလက်ထက်ကရှိသော ဂိုဏ်းဆရာကြီးခြောက်ဦးတို့၏ အဆက်အနွယ်များ ဖြစ်ကြသည်။

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## ပူရဏကဿပသို့ မေးမြန်းခန်း

၆။ ထိုအခါ မိလိန္ဒမင်းသည် ယောနကအမတ်ငါးရာခြံရံလျက် ကောင်းသော မြင်းယာဉ်က,သော ရထားမြတ်ကို တက်စီး၍ ပူရဏကဿပထံသို့ ချဉ်းကပ်လေ၏။ ချဉ်းကပ်ပြီးသော် ပူရဏကဿပနှင့် အတူတကွ ဝမ်းမြောက်ဝမ်းသာ နှုတ်ဆက်ပြောဆို၏။ အသက်ထက်ဆုံး အောက်မေ့အပ်သော နှစ်သက်ဝမ်းမြောက်ဖွယ် စကားကို ပြောဆိုပြီးဆုံးစေပြီးနောက် သင့်လျော်လျောက်ပတ်သော နေရာအရပ်၌ ထိုင်နေပြီးသော် "အသျှင်ကဿပ အဘယ်သည် လောကကို စောင့်ရှောက်ပါသနည်း" ဟု မေးမြန်း ပြောဆို၏။ မင်းမြတ် မြေကြီးသည် လောကကို စောင့်ရှောက်ပါ၏ဟု ဖြေဆို၏။ အသျှင်ကဿပ မြေကြီး သည် လောကကို စောင့်ရှောက်သည်ဖြစ်ခဲ့မူ အဝီစိငရဲကြီးသို့ ကျရောက်သော သတ္တဝါတို့သည် မြေကြီး ကို ကျော်လွန်၍ အဘယ့်ကြောင့် ကျရောက်ရပါကုန်သနည်းဟု မေးမြန်းပြောဆိုပြန်၏။ ဤသို့ မေးမြန်း ပြောဆိုလတ်သော် ပူရဏကဿပသည် မထွေးနိုင်, မမျိုနိုင်၊ မျက်နှာအောက်ချကာ ဦးခေါင်းငိုက်စိုက် တိတ်ဆိတ်စွာ ကြံမှိုင်လျက် နေလေ၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## မက္ခလိဂေါသာလသို့ မေးမြန်းခန်း

၇။ ထိုသို့ မေးမြန်းပြီးနောက် မိလိန္ဒမင်းသည် မက္ခလိဂေါသာလကို "အသျှင်ဂေါသာလ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ သည် ရှိပါကုန်သလော။ ကောင်းမှု၊ မကောင်းမှုကံတို့၏ အကျိုးဝိပါက်သည် ရှိပါသလော"ဟု မေးမြန်းပြောဆို၏။ မင်းမြတ် ကုသိုလ်ကံ၊ အကုသိုလ်ကံတို့သည် မရှိပါကုန်။ ကောင်းမှု၊ မကောင်းမှုကံတို့၏ အကျိုးဝိပါက်သည် မရှိပါ။ မင်းမြတ် ဤလောက၌ (ရှိသော) မင်းမျိုးတို့သည် တစ်ပါးသော လောကသို့ ပြောင်း သွားကုန်သော်လည်း တစ်ဖန် မင်းမျိုးတို့သာ ဖြစ်ကြရပါကုန်လတ္တံ့။ ပုဏ္ဏား၊ကုန်သည်၊ သူဆင်းရဲ၊ ဒွန်းစဏ္ဍား၊ ပန်းမှိုက်သွန်မျိုးတို့သည် တစ်ပါးသော လောကသို့ ပြောင်းသွား ကုန်သော်လည်း တစ်ဖန် ပုဏ္ဏား၊ကုန်သည်၊ သူဆင်းရဲ၊ ဒွန်းစဏ္ဍား၊ ပန်းမှိုက်သွန်မျိုးတို့သာ ဖြစ်ကြရပါ ကုန်လတ္တံ့။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ဖြင့် အဘယ်အကျိုးရှိပါအံ့နည်းဟု ဖြေဆို၏။ အသျှင်ဂေါသာလ ဤလောက၌ (ရှိသော)မင်း၊ ပုဏ္ဏား၊ကုန်သည်၊ သူဆင်းရဲ၊ ဒွန်းစဏ္ဍား၊ ပန်းမှိုက် သွန်မျိုးတို့သည် တစ်ပါး သော လောကသို့ ပြောင်းသွား ကုန်သော်လည်း တစ်ဖန် မင်း၊ ပုဏ္ဏား၊ကုန်သည်၊ သူဆင်းရဲ၊ ဒွန်းစဏ္ဍား၊ ပန်းမှိုက်သွန်မျိုးတို့သာ အကယ်၍ ဖြစ်ကြရကုန် မူ၊ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ဖြင့် ပြုလုပ်ဖွယ်သည် အကယ်၍ မရှိခဲ့မူ အသျှင်ဂေါသာလ ဤလောက၌ ရှိသော လက်ပြတ်သူတို့သည် တစ်ပါးသော လောကသို့ ပြောင်းသွားကုန်သော်လည်း တစ်ဖန် လက်ပြတ်သူတို့ပင် ဖြစ်ရကုန်လိမ့်တကား။ ခြေပြတ် သော သူတို့သည် ထိုခြေပြတ်သော သူတို့သာ ဖြစ်ရကုန်လိမ့်တကား။ လက်,ခြေ ပြတ်သော သူတို့သည် လက်,ခြေပြတ်သော သူတို့သာ ဖြစ်ရကုန်လိမ့်တကား။ နားပြတ်သော သူတို့သည် နားပြတ်သော သူတို့ သာ ဖြစ်ရကုန်လိမ့်တကား။ နှာခေါင်းပြတ်သော သူတို့သည် နှာခေါင်းပြတ်သော သူတို့ပင် ဖြစ်ရကုန်လိမ့်

တကား။ နား, နှာခေါင်းပြတ်သော သူတို့သည် နား, နှာခေါင်းပြတ်သော သူတို့ပင် ဖြစ်ရကုန်လိမ့် တကားဟု ဤသို့ ပြောဆိုသည်ရှိသော် ဂေါသာလသည် စကားမပြော တိတ်ဆိတ်၍ နေ၏။

ထိုအခါ၌ မိလိန္ဒမင်းအား ဤသို့သော တွေးတောမှု ဖြစ်လေ၏ "အချင်းတို့ ဇမ္ဗူဒိပ်ကျွန်းသည် အချည်းနှီးဖြစ်လေစွ။ အချင်းတို့ ဇမ္ဗူဒိပ်ကျွန်းသည် အဖျင်းအတိ ဖြစ်လေစွ။ ငါနှင့်ဖက်ပြိုင် ပြောဆိုခြင်းငှါ ငါ၏ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းနိုင်သည့် တစ်စုံတစ်ယောက်သော သမဏသော် လည်းကောင်း၊ ဗြာဟ္မဏသော် လည်းကောင်း မရှိတော့ချေ" ဟု တွေးတောမှု ဖြစ်လေ၏။

ထို့နောက် မိလိန္ဒမင်းသည် အမတ်တို့ကို ပြောဆိုမေးမြန်းတော်မူ၏ "အချင်းတို့ ညဉ့်သည် အပြစ် ကင်း၍ မွေ့လျော် ဖွယ်ရှိစွတကား။ ယခုအခါကာလ၌ အဘယ်သမဏ, ဗြာဟ္မဏသို့ အမေးပုစ္ဆာ ပြဿနာ မေးရန် ဆည်းကပ်ရပါအံ့နည်း။ အဘယ်သမဏ, ဗြာဟ္မဏသည် ငါနှင့် ဖက်ပြိုင်ပြောဆိုခြင်းငှါ ငါ၏ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းနိုင် မည်နည်း" ဟု (ပြောဆိုမေးမြန်းတော်မူ၏)။ ဤသို့ မေးမြန်းလတ်သော် အမတ်တို့သည် ဆိတ်ဆိတ်ဖြစ်ကုန်၍ မိလိန္ဒမင်း၏ မျက်နှာကို မော့ကြည့်ကုန်လျက် ရပ်တည်နေကြကုန်၏။

ထိုအခါ သာဂလမြို့သည် တစ်ဆယ့်နှစ်နှစ်သို့တိုင်တိုင် သမဏပညာရှိ၊ ဗြာဟ္မဏပညာရှိ၊ ဂဟပတိ ပညာရှိတို့မှ ဆိတ်သုဉ်း၏။ အကြင်အရပ်၌ သမဏပညာရှိ၊ ဗြာဟ္မဏပညာရှိ၊ ဂဟပတိပညာရှိတို့သည် နေကြကုန်၏ဟု သတင်းကြား၏။ ထိုအရပ်သို့ သွားရောက်၍ မိလိန္ဒမင်းသည် ထိုပညာရှိတို့ကို ပြဿနာ မေး၏။ ထိုပညာရှိ အားလုံးတို့သည်လည်း ပြဿနာကို ဖြေဆိုခြင်းဖြင့် မိလိန္ဒမင်းကို နှစ်ခြိုက်စေခြင်းငှါ မတတ်နိုင်ကုန်သည်ဖြစ်၍ ထိုထိုအရပ်မျက်နှာသို့ ဖဲသွားကြရကုန်၏။ အကြင် ပညာရှိတို့သည် သာဂလ ပြည်မှ တစ်ပါးသော အရပ်သို့ မသွားကုန်။ ထိုပညာရှိ အားလုံးတို့သည် တိတ်ဆိတ်စွာ နေကြရကုန်၏။ ရဟန်းတို့ကား များသောအားဖြင့် ဟိမဝန္တာသို့သာ ကြွသွားကြကုန်၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

### နာဂသေနနတ်သားကို တောင်းပန်ခန်း

၈။ ထိုသို့ သာဂလပြည်ဝယ် ပညာရှိဆိတ်သုဉ်းသော အခါ၌ များစွာကုန်သော ရဟန္တာတို့သည် ဟိမဝန္တာတောင်, ရက္ခိတမည်သော ကုန်းပြင်၌ (သီတင်းသုံး) နေထိုင်ကြကုန်၏။ ထိုအခါ အသျှင်အဿဂုတ္တမထေရ်သည် ဒိဗ္ဗသောတ အဘိညာဏ်ဖြင့် မိလိန္ဒမင်း၏ ညည်းတွားသော စကားကို ကြားရ၍ ယုဂန္ဓိုရ် တောင်ထိပ်၌ ရဟန်းအပေါင်းကို စည်းဝေးစေပြီးလျှင် "ငါ့သျှင်တို့ မိလိန္ဒမင်းနှင့် ဖက်ပြိုင်ပြောဆိုခြင်းငှါ၊ မိလိန္ဒမင်း၏ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းဆောင်နိုင်သော တစ်စုံတစ်ဦးသော ရဟန်းရှိသလော" ဟု ရဟန်းတို့ကို မေးတော်မူ၏။

ဤသို့ မေးတော်မူသော် များစွာကုန်သော ရဟန္တာတို့သည် ဆိတ်ဆိတ်နေကြကုန်၏။ နှစ်ကြိမ်, သုံးကြိမ် မေးမြန်းအပ် ကုန်သော်လည်း ဆိတ်ဆိတ်ပင် နေကြကုန်၏။ ထိုအခါ အသျှင်အဿဂုတ္တသည် ရဟန်းသံဃာအား "ငါ့သျှင်တို့ တာဝတိံသာနတ်ဘုံ သိကြားနတ်မင်း၏ ဗိမာန် ဝေဇယန္တာပြာသာဒ်၏ အရှေ့မျက်နှာအရပ်၌ ကေတုမတီမည်သော ဗိမာန်သည် ရှိ၏။ ထိုကေတုမတီဗိမာန်၌ မဟာသေနမည်သော နတ်သားသည် နေ၏။ ထိုမဟာသေနနတ်သားသည် မိလိန္ဒမင်း နှင့် ဖက်ပြိုင်ပြောဆိုခြင်းငှါ၊ မိလိန္ဒမင်း၏ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းဆောင်နိုင်၏" ဟု ပြောကြားတော်မူ၏။

ထို့နောက် များစွာကုန်သော ရဟန္တာတို့သည် ယုဂန္ဓိုရ်တောင်ထိပ်မှ ကွယ်ခဲ့ကုန်၍ တာဝတိံသာနတ်ပြည်၌ ထင်ရှား ဖြစ်ကုန်၏။ နတ်တို့အရှင် သိကြားမင်းသည် ကြွလာသော ရဟန်းတို့ကို အဝေးမှပင်မြင်၍ အသျှင်အဿဂုတ္တရှိရာ အရပ်သို့ ချဉ်းကပ်ပြီးသော် အသျှင်အဿဂုတ္တကို ရှိခိုး၍ သင့်လျော်သော နေရာ၌ ရပ်၏။ သင့်လျော်သော နေရာ၌ ရပ်ပြီးသော် နတ်တို့အရှင် သိကြားမင်းသည် အသျှင်အဿဂုတ္တအား "အသျှင်ဘုရား များပြားလှစွာသော ရဟန်းသံဃာသည် ကြွရောက်တော်မူလာ၏။ အကျွန်ုပ်သည် သံဃာတော်၏ အရံစောင့် ဖြစ်ပါ၏။ အဘယ်ဝတ္ထုဖြင့် အလိုရှိပါသနည်း။ အကျွန်ုပ်သည် အဘယ်ကို ပြုရပါအံ့နည်း" ဟု (လျှောက်၏)။

ထိုအခါ အသျှင်အဿဂုတ္တသည် နတ်တို့အရှင် သိကြားမင်းအား "မင်းမြတ် ဇမ္ဗူဒိပ်ကျွန်း သာဂလပြည်၌ မိလိန္ဒ အမည်ရှိသော ဤမင်းသည် ပညာရှိတို့ စိတ်နှလုံးကို တုန်လှုပ်အောင် ပြောဆိုတတ်၏။ သူတစ်ပါးတို့က ညှဉ်းဆဲနိုင်ခဲ၏။ သူတစ်ပါးတို့က နှိမ်နင်းခြင်းငှါ ခက်ခဲ၏။ များစွာသော အယူကို တီထွင်သူတို့တွင် အထွတ်အမြတ်ဟု ဆိုထိုက်၏။ ထိုမိလိန္ဒမင်းသည် ရဟန်းသံဃာကို ဆည်းကပ်၍ အယူဝါဒကို ပြောဆိုသဖြင့် အမေးပုစ္ဆာ ပြဿနာကို မေးလျက် ရဟန်းသံဃာကို ညှဉ်းဆဲနှိပ်စက်နေပါ၏" ဟု (ဆို၏)။

ထိုအခါ နတ်တို့အရှင် သိကြားမင်းသည် အသျှင်အဿဂုတ္တအား "အသျှင်ဘုရား ဤမိလိန္ဒမင်းသည် ဤ (တာဝတိံသာ)နတ်ပြည်မှ စုတေ၍ လူ့ပြည်၌ ဖြစ်ပါ၏။ အသျှင်ဘုရား ကေတုမတီအမည်ရှိသော ဗိမာန်၌ မဟာသေန အမည်ရှိသော ဤနတ်သားသည် နေပါ၏။ ထိုမဟာသေနနတ်သားသည် ထိုမိလိန္ဒမင်းနှင့် ဖက်ပြိုင်ပြောဆိုခြင်းငှါ၊ ယုံမှား 'ကင်္ခါ' ကို ပယ်ဖျောက်ခြင်းငှါ စွမ်းဆောင်နိုင်ပါ၏၊ ထိုနတ်သားကို လူ့ပြည်၌ဖြစ်ရန် တောင်းပန်ကြပါကုန်စို့" ဟု လျှောက်၏။

ထို့နောက် နတ်တို့အရှင် သိကြားမင်းသည် ရဟန်းသံဃာကို ရှေ့သွားပြု၍ ကေတုမတီဗိမာန်သို့ ဝင်ပြီးလျှင် မဟာသေနနတ်သားကို လည်ဖက်လျက် "အဆွေမဟာသေနနတ်သား သင့်ကို ရဟန်းသံဃာသည် လူ့ပြည်၌ ဖြစ်ရန် တိုက်တွန်းပါ၏" ဟု ပြောဆို၏။ "အရှင်သိကြားမင်း အမှုကိစ္စများလှသော လူ့ပြည်လောကဖြင့် အကျွန်ုပ် အလိုမရှိပါ။ လူ့ပြည် လောကသည် (လောဘစသည်) ထက်သန်လှ

ချေ၏။ အရှင်သိကြားမင်း အကျွန်ုပ်သည် ဤနတ်ပြည်လောက၌ပင် အဆင့်ဆင့်ဖြစ်ပြီးလျှင် ပရိနိဗ္ဗာန် ပြုလိုပါ၏" ဟု ပြောဆို၏။ နတ်တို့အရှင် သိကြားမင်းသည် နှစ်ကြိမ်, သုံးကြိမ် တောင်းပန်အပ်သော် မဟာသေနနတ်သားသည် "အရှင်သိကြားမင်း အမှုကိစ္စများလှသော လူ့ပြည်လောကဖြင့် အကျွန်ုပ် အလိုမရှိပါ။ လူ့ပြည်လောကသည် (လောဘစသည်) ထက်သန်လှချေ၏။ အရှင်သိကြားမင်း အကျွန်ုပ် သည် ဤနတ်ပြည် လောက၌ပင် အဆင့်ဆင့်ဖြစ်ပြီးလျှင် ပရိနိဗ္ဗာန် ပြုလိုပါ၏" ဟု ပြောဆို၏။

ထိုသို့ သုံးကြိမ်တိုင် ငြင်းပယ်သောအခါ အသျှင်အဿဂုတ္တသည် မဟာသေနနတ်သားအား "သူတော်ကောင်း နတ်သား နတ်နှင့်တကွသော လောကကို အစဉ်လျှောက်၍ ကြည့်ကုန်သော် သင် နတ်သားမှ တစ်ပါး မိလိန္ဒမင်း၏ အယူဝါဒကို နှိမ်နင်းဖျက်ဆီး၍ သာသနာတော်ကို ချီးမြှောက်ခြင်းငှါ စွမ်းနိုင်မည့်သူ တစ်စုံတစ်ယောက်ကိုမျှ ငါတို့ မမြင်မိကုန်။ သူတော်ကောင်းနတ်သား ရဟန်းသံဃာသည် သင်နတ်သားကို တိုက်တွန်း တောင်းပန်ပါ၏။ သူတော်ကောင်း နတ်သား တောင်းပန်ပါ၏။ လူ့ပြည် လောက၌ ဖြစ်၍ မြတ်စွာဘုရား၏ သာသနာတော်ကို ထောက်ပံ့ချီးမြှင့်ပါလော့" ဟု တိုက်တွန်း ပြောဆို ၏။ ဤသို့ ပြောဆိုလတ်သော် မဟာသေနနတ်သားသည် "ငါကား မိလိန္ဒမင်း၏ အယူဝါဒကို ဖျက်ဆီး၍ မြတ်စွာဘုရား သာသနာတော်ကို ချီးမြှောက်ခြင်းငှါ စွမ်းဆောင်နိုင်သူ ဖြစ်သတတ်" ဟု အလွန်ရွှင်ပျ ဝမ်းမြောက်သော စိတ်ရှိသည် ဖြစ်၍ "အသျှင်ဘုရားတို့ ကောင်းလှပါပြီ၊ အကျွန်ုပ်သည် လူ့ပြည်လောက ၌ ဖြစ်ပါတော့အံ့" ဟု ဝန်ခံ၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

### အသျှင်ရောဟဏကို ဒဏ်ပေးခန်း

၉။ ထိုအခါ ထိုရဟန်းတို့သည် နတ်ပြည်၌ ထိုကိစ္စကို ပြီးဆုံးစေ၍ တာဝတိံသာနတ်ပြည်တို့မှ ကွယ်ခဲ့ကုန်ပြီးလျှင်၊ ဟိမဝန္တာတောင်, ရက္ခိတကုန်းပြင်၌ ထင်ရှားဖြစ်ကုန်၏။

ထိုအခါ အသျှင်အဿဂုတ္တမထေရ်သည် ရဟန်းသံဃာအား "ငါ့သျှင်တို့ ဤရဟန်းသံဃာ၌ အစည်း အဝေးသို့ မလာသော ရဟန်းတစ်ဦးတစ်ယောက် ရှိပါသလော" ဟု ပြောဆို၏။ ဤသို့ ဆိုသည်ရှိသော် ရဟန်းတစ်ပါးက အသျှင်အဿဂုတ္တအား "အသျှင်ဘုရား ရှိပါ၏၊ အသျှင်ရောဟဏသည် ဤနေ့မှစ၍ ခုနစ်ရက်က ဟိမဝန္တာတောင်သို့ ဝင်၍ နိရောဓသမာပတ်ကို ဝင်စားနေထိုင်ပါ၏၊ ထိုရဟန်း၏ အထံသို့ တမန် စေလွှတ်တော် မူပါကုန်လော့" ဟု လျှောက်၏။ အသျှင်ရောဟဏသည်လည်း ထိုခဏ၌ပင် နိရောဓသမာပတ်မှ ထ၍ "သံဃာသည် ငါ့ကို မျှော်လင့်တောင့်တ၏" ဟု ဟိမဝန္တာတောင်မှ ကွယ်ခဲ့ပြီး လျှင် ရက္ခိတကုန်းပြင်၌ သီတင်းသုံးနေကြသော များစွာသော ရဟန္တာတို့၏ ရှေ့၌ ထင်ရှားဖြစ်ပေါ်၏။

ထိုအခါ အသျှင်အဿဂုတ္တသည် အသျှင်ရောဟဏအား "ငါ့သျှင်ရောဟဏ မြတ်စွာဘုရား သာသနာတော် ပျက်စီးသည် ရှိသော် သံဃာပြုရမည့် ကိစ္စတို့ကို မမြင်သလော" ဟု ပြောဆို၏။ အသျှင် ဘုရား အကျွန်ုပ် နှလုံးမသွင်းခဲ့မိပါဟု လျှောက်ထား၏။

ယင်းသို့ နှလုံးမသွင်းမိခဲ့မူ ဒဏ်ထမ်းခြင်းအမှုကို ပြုလော့ဟု မိန့်တော်မူ၏။ အသျှင်ဘုရား အဘယ် အမှုကို ပြုရပါ အံ့နည်းဟု လျှောက်ထား၏။ "ငါ့သျှင်ရောဟဏ ဟိမဝန္တာတောင်ခြေရင်း၌ ဂဇင်္ဂလ အမည်ရှိသော ပုဏ္ဏားရွာသည် ရှိ၏။ ထိုပုဏ္ဏားရွာ၌ သောဏုတ္တရအမည်ရှိသော ပုဏ္ဏားသည် နေ၏။

ထိုပုဏ္ဏားအား နာဂသေနအမည်ရှိသော သားသူငယ်သည် ဖြစ်ပေါ်မွေးဖွားလတ္တံ့။ ငါ့သျှင်ရောဟဏ ထိုသို့ မွေးဖွားမည် ဖြစ်သောကြောင့် သင်သည် ခုနစ်နှစ်, ဆယ်လတို့ပတ်လုံး ထိုပုဏ္ဏားအိမ်သို့ ဆွမ်းခံဝင်၍ နာဂသေနအမည်ရှိသော သူငယ်ကို လူ့ဘောင်မှ ထုတ်နုတ်လျက် ရှင်သာမဏေပြုစေလော့၊ ထိုနာဂသေန ရှင်သာမဏေ ပြုပြီးမှသာ သင်သည် ဒဏ်ထမ်းသော အမှုမှ လွတ်လတ္တံ့" ဟု မိန့်တော်မူ၏။ အသျှင် ရောဟဏသည်လည်း "ကောင်းပါပြီ" ဟု ဝန်ခံလေ၏။ ။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## နာဂသေနသူငယ် ဖွားမြင်ခန်း

၁၀။ မဟာသေနနတ်သားသည်လည်း နတ်ပြည်မှ စုတေရွေ့လျောခဲ့၍ သောဏုတ္တရပုဏ္ဏား၏ ခင်ပွန်းမဝမ်း၌ ပဋိသန္ဓေကို ယူ၏။ ပဋိသန္ဓေယူသည်နှင့် တစ်ပြိုင်နက် လက်နက်ဘဏ္ဍာတို့သည် ထွန်းတောက်ပကုန်၏။ မြတ်သော ကောက်စပါးသည် ပြည့်စုံ၏။ မိုးကြီး သည်းထန်စွာ ရွာသွန်း၏။ ဤသို့ အံ့ဖွယ်သရဲ မဖြစ်ဖူးမြဲ ထူးကဲသော ဖြစ်ပေါ်ခြင်း သဘောသုံးမျိုးတို့သည် ထင်ရှားဖြစ်ကုန်၏။

အသျှင်ရောဟဏသည်လည်း ထိုနာဂသေနသူငယ် ပဋိသန္ဓေယူသောနေ့မှစ၍ ခုနစ်နှစ်, ဆယ်လတို့ ပတ်လုံး ထိုပုဏ္ဏားအိမ်သို့ ဆွမ်းခံဝင်သော်လည်း တစ်ယောက်မ, မျှလောက်သော ဆွမ်းကိုသော် လည်းကောင်း၊ တစ်ယောက်ချိုမျှ လောက်သော ယာဂုကိုသော် လည်းကောင်း၊ ရှိခိုးခြင်းကိုသော် လည်းကောင်း၊ လက်အုပ်ချီခြင်းကိုသော် လည်းကောင်း၊ အရိုအသေပြုခြင်းကိုသော် လည်းကောင်း တစ်နေ့မျှပင် မရခဲ့ချေ။ ဆဲရေးခြင်း, ကြိမ်းမောင်းခြင်းကိုသာလျှင် ရလေ၏။ "အသျှင် ကန်တော့ပါသေး၏" ဟူသော စကားကိုမျှလည်း ပြောဆိုသူမည်သည် မရှိခဲ့စဖူး။ ခုနစ်နှစ်, ဆယ်လတို့ လွန်သဖြင့် တစ်နေ့သ၌ "အသျှင် ကန်တော့ပါသေး၏" ဟူသော စကားမျှကို ရလေ၏။ ထိုနေ့၌ပင်လျှင် သောဏုတ္တရ ပုဏ္ဏားသည်လည်း အပြင်ပ အလုပ်လုပ်ရာမှ လာသည်ရှိသော် ရောဟဏမထေရ်ကို ခရီး ရင်ဆိုင်မြင်၍ "ရဟန်း ငါတို့၏ အိမ်သို့ ရောက်ခဲ့ပါ၏လော" ဟု မေး၏။ ပုဏ္ဏား ရောက်ခဲ့ပါကုန်၏။ တစ်စုံတစ်ခုမျှကို ရခဲ့ပါ၏လောဟု မေး၏။ ပုဏ္ဏား ရခဲ့ပါကုန်၏ဟု (ဖြေ၏)။ ထိုပုဏ္ဏားသည် နှလုံးမသာဘဲ အိမ်သို့ သွား၍ "ထိုရဟန်းအား တစ်စုံတစ်ခုကို ပေးမိသလော" ဟု မေး၏။ တစ်စုံတစ်ခုကိုမျှ မပေးပါကုန်ဟု ပြောကြားကုန်၏။ ပုဏ္ဏားသည် ဒုတိယနေ့၌ "ယနေ့ ရဟန်းကို မုသာဝါဒဖြင့် နှိပ်အံ့" ဟု အိမ်တံခါး၌သာလျှင် ထိုင်နေ၏။ ရောဟဏမထေရ်သည် ဒုတိယနေ့၌ ပုဏ္ဏား၏ အိမ်တံခါးသို့ ကြွရောက်၏။

ပုဏ္ဏားသည် မထေရ်ကို မြင်လျှင်မြင်ခြင်းပင်လျှင် "သင်တို့သည် ယမန်နေ့က ငါတို့၏ အိမ်၌ တစ်စုံတစ်ရာကိုမျှ မရဘဲလျက်သာလျှင် 'ရကုန်၏' ဟု ဆိုကုန်၏။ သင်ရဟန်းတို့အား မဟုတ်မမှန် ပြောဆိုခြင်းသည် အပ်သလော" ဟု ပြောဆို၏။ ရောဟဏမထေရ်က ပုဏ္ဏား "ငါတို့သည် သင်တို့အိမ်၌ ခုနစ်နှစ်, ဆယ်လတို့ပတ်လုံး 'ကန်တော့ပါသေး၏' ဟူသော စကားကိုမျှလည်း မရစဖူး။ ယမန်နေ့က 'အသျှင် ကန်တော့ပါသေး၏' ဟူသော စကားမျှကို ရခဲ့ကုန်၏။ ထိုသို့ ရသောကြောင့် ထိုပဋိသန္ထာရ စကား တစ်ခွန်းကို အကြောင်းပြု၍ ဤသို့ ရခဲ့ကုန်၏ဟူသော စကားကို ငါတို့ ဆိုကုန်၏" ဟု ပြော ဆို၏။

ပုဏ္ဏားသည် "ဤရဟန်းတို့ကား ပဋိသန္ထာရစကားကို ရရုံမျှလည်း လူတို့၏ အလယ်၌ 'ရကုန်၏' ဟု ချီးမွမ်းကြကုန် သေး၏။ တစ်ပါးသော တစ်စုံတစ်ခုသော ခဲဖွယ်ကို လည်းကောင်း၊ စားဖွယ်ကို လည်းကောင်း ရသည်ရှိသော် အဘယ့်ကြောင့် မချီးမွမ်းဘဲ ရှိကုန်အံ့နည်း" ဟု ကြံစည် ကြည်ညို၍ မိမိ

အလို့ငှါ စီရင်အပ်သော ထမင်းမှ တစ်ဇွန်းသော ဆွမ်းကို လည်းကောင်း၊ ထိုဆွမ်းအားလျော်သော ဟင်းကို လည်းကောင်း ပေးလှူစေ၍ "ဤမျှသော ဆွမ်းကို အခါခပ်သိမ်း အသျှင်ဘုရားတို့ ရကုန်လတ္တံ့" ဟု ပြောဆို၏။

ထိုပုဏ္ဏားသည် နောက်တစ်နေ့မှစ၍ ချဉ်းကပ်လာသော မထေရ်၏ ငြိမ်သက်သော ဣန္ဒြေကို မြင်ရ၍ အတိုင်းထက် အလွန် ကြည်ညိုပြီးလျှင် မထေရ်ကို အခါခပ်သိမ်း မိမိအိမ်၌ ဆွမ်းအမြဲ ဘုဉ်းပေးရန် တောင်းပန်၏။ မထေရ်သည် ဆိတ်ဆိတ်နေခြင်းဖြင့် လက်ခံ၍ နေ့တိုင်း နေ့တိုင်း ဆွမ်းစားခြင်းကိစ္စကို ပြုလျက် ကြွသွားသည်ရှိသော် အနည်းငယ် အနည်းငယ်သော ဘုရားစကားကို ဟောပြောပြီးမှ ကြွသွားလေ၏။ ထိုပုဏ္ဏေးမသည်လည်း ဆယ်လလွန်သဖြင့် သားကို ဖွားမြင်လေ၏။ ထိုသူငယ်အား "နာဂသေန" ဟူသော အမည်ကို မှည့်ကုန်၏။ ထိုနာဂသေနသူငယ်သည် အစဉ်သဖြင့် ကြီးပွားလတ်၍ ခုနစ်နှစ်သားရှိလာ၏။ ။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## နာဂသေန ပညာသင်ခန်း

၁၁။ ထိုအခါ နာဂသေနသူငယ်၏ ဖခင်ပုဏ္ဏားသည် နာဂသေနသူငယ်အား "ချစ်သား နာဂသေန ဤငါတို့ ပုဏ္ဏားမျိုး ၌ သင်ကြားအပ်သော အတတ်ပညာတို့ကို သင်ကြားပါလော့" ဟု ပြောဆို၏။ ဖခင့်ဤပုဏ္ဏားမျိုး၌ သင်ကြားအပ်သော အတတ်ပညာတို့မည်သည် အဘယ်ပါနည်းဟု မေး၏။ ချစ်သား နာဂသေန ဗေဒင်သုံးပုံတို့သည် သင်ကြားအပ်သော အတတ်ပညာ မည်ကုန်၏။ ဗေဒင်သုံးပုံမှ ကြွင်းသော အတတ်ပညာတို့သည် သိပ္ပမည်၏ဟု ပြောဆို၏။ ဖခင် သို့ဖြစ်လျှင် သင်ကြားပါအံ့ဟု ဝန်ခံ၏။

ယင်းသို့ နာဂသေန ဝန်ခံသောအခါ၌ သောဏုတ္တရပုဏ္ဏားသည် ဆရာပုဏ္ဏားအား အသပြာ တစ်ထောင်ကို ဆရာစားပေး၍ ပြာသာဒ်အတွင်း တိုက်ခန်းတစ်ခုဝယ် တစ်ဖက်မှ ညောင်စောင်းကို ခင်းထားစေ၍ ဆရာပုဏ္ဏားအား "ဆရာပုဏ္ဏား သင်သည် ဤနာဂသေနသူငယ်အား ဗေဒင်တို့ကို ရွတ်ဖတ် သင်ကြားပါစေလော့" ဟု ပြောကြား၏။ ချစ်သား သို့ဖြစ်လျှင် ဗေဒင်သုံးပုံတို့ကို သင်ယူလော့ ဟု ဆို၍ ဆရာပုဏ္ဏားသည် ချပို့ သရဇ္ဈာယ်၏။ နာဂသေနသတို့သားအား တစ်ကြိမ်ရွတ်ဆို သင်ယူကာ မျှဖြင့်ပင်လျှင် ဗေဒင်သုံးပုံတို့သည် နှလုံးသို့ သက်ဝင်ကုန်၍ နှုတ်တက်ကုန်ပြီ၊ ကောင်းစွာ ဆောင်မိကုန်ပြီ၊ ကောင်းစွာ ပိုင်းခြား မှတ်သားမိကုန်ပြီ၊ ကောင်းစွာ နှလုံးသွင်းထားမိကုန်ပြီ။ တစ်ကြိမ် သင်ကာမျှဖြင့်ပင် ဗေဒင်သုံးပုံ၊ (အဘိဓာန်) နိဃဏ္ဍုကျမ်း၊ (အလင်္ကာ) ကေဋုဘကျမ်း၊ (သဒ္ဒါ) အက္ခရပ္ပဘေဒကျမ်းနှင့်တကွ ငါးခုမြောက် ဣတိဟာသကျမ်းတို့၌ ပညာမျက်စိ ထင်ရှားဖြစ်ပြီ။ ပဒကျမ်းကို တတ်မြောက်၏။ ဗျာကရုဏ်းကျမ်းကို တတ်မြောက်၏။ လောကာယတကျမ်း၊ မဟာပုရိသလက္ခဏာကျမ်းတို့၌ အကြွင်းမဲ့ တတ်မြောက်၏။

ထိုအခါ နာဂသေနသူငယ်သည် ဖခင်အား "ဖခင် ဤပုဏ္ဏားမျိုး၌ ဤဗေဒင် သုံးပုံစသည်ထက် အပိုအလွန်လည်း သင်ကြားဖွယ်တို့ ရှိပါကုန်သေးသလော၊ သို့မဟုတ် ဤမျှတို့သာလော" ဟု ပြောဆို၏။ ချစ်သား နာဂသေန ဤပုဏ္ဏားမျိုး၌ ဤဗေဒင်သုံးပုံစသည်ထက် အပိုအလွန် သင်ကြားဖွယ်တို့ မရှိကုန်၊ ဤဗေဒင်သုံးပုံတို့ကိုသာ သင်ကြားအပ်ကုန်၏ဟု ပြန်ကြားပြောဆို၏။

ထိုအခါ နာဂသေနသတို့သားသည် ဆရာပုဏ္ဏားအား မေးမြန်းစိစစ်ဖွယ်ကို မေးမြန်း စိစစ်ပြီးလျှင် ပြာသာဒ်မှ သက်ဆင်း၍ ရှေးအထုံ(ဝါသနာ)သည် တိုက်တွန်းအပ်သော စိတ်ရှိလတ်ရကား ဆိတ်ငြိမ်ရာသို့ ချဉ်းကပ်လျက် တစ်ယောက်တည်း ကိန်းအောင်းကာ မိမိအတတ်၏ အစ၊ အလယ်၊ အဆုံးကို ကြည့်ရှုဆင်ခြင်သည်ရှိသော် အစ၌ လည်းကောင်း၊ အလယ်၌ လည်းကောင်း၊ အဆုံး၌ လည်းကောင်း အနှစ်သာရ အနည်းငယ်မျှကိုသော်လည်း မမြင်မတွေ့ရသောကြောင့် "အချင်းတို့ ဤဗေဒင်တို့သည် အချည်းနှီး ဖြစ်ကုန်စွတကား။ အချင်းတို့ ဤဗေဒင်တို့သည် အဖျင်းအတိသာ ဖြစ်ကုန်စွတကား။ အနှစ် မရှိကုန် အနှစ်ကင်းကုန်၏" ဟု နှလုံးမသာ စိတ်မချမ်းမသာ ဖြစ်လေ၏။ ။

------

# မိလိန္ဒပဉ္ဟာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## ရောဟဏမထေရ်နှင့် နာဂသေနတွေ့ဆုံခန်း

၁၂။ ထိုအခါ အသျှင်ရောဟဏသည် ဝတ္တနိယကျောင်း၌ နေလျက် နာဂသေနသတို့သား၏ စိတ်အကြံကို မိမိ၏ စိတ်ဖြင့် သိ၍ သင်္ကန်းကို ပြင်ဝတ်လျက် သပိတ် သင်္ကန်းကို ယူပြီးလျှင် ဝတ္တနိယကျောင်းမှ ကွယ်ခဲ့၍ ဂဇင်္ဂလပုဏ္ဏားရွာ၏ ရှေ့မျက်နှာစာအရပ်၌ ထင်ရှားဖြစ်လေ၏။ နာဂသေနသတို့သားသည် မိမိ၏ အိမ်တံခါးမုခ်၌ ရပ်တည်နေစဉ် ကြွလာသော အသျှင်ရောဟဏကို အဝေးကပင် မြင်ရသောကြောင့် နှစ်လိုတက်ကြွ အားရရွှင်လန်း ဝမ်းပန်းတသာ ရှိသည်ဖြစ်၍ "ဤရဟန်းသည် တစ်စုံတစ်ခုသော အနှစ်သာရကို သိတန်ကောင်းရာ၏" ဟု ကြံစည်လျက် အသျှင်ရောဟဏထံ ချဉ်းကပ်ပြီးလျှင် အသျှင်ရောဟဏအား "အသျှင် ဤသို့ သဘောရှိသော ဦးပြည်းလျက် ဖန်ရည်ဆိုးအဝတ်ကို ဝတ်သော အသျှင်ကား အဘယ်လူမျိုးမည်သနည်း" ဟု လျှောက်၏။ သူငယ် ငါသည် ရဟန်းမည်သတည်း။ အသျှင် သင်သည် အဘယ့်ကြောင့် ရဟန်းမည်ပါသနည်းဟု လျှောက်၏။ သူငယ် ငါသည် ယုတ်ညံ့သော (အကုသိုလ်) အညစ်အကြေးတို့ကို နှင်ထုတ်သောကြောင့် ရဟန်းမည်၏။ အသျှင် သင်၏ ဆံပင်တို့သည် အဘယ့်ကြောင့် တစ်ပါးသော သူတို့၏ ဆံပင်တို့ကဲ့သို့ မဟုတ်ပါသနည်းဟု (လျှောက်၏)။ သူငယ် ဤကြောင့်ကြမှု တစ်ဆယ့်ခြောက်ပါးတို့ကို မြင်သောကြောင့် ဆံမုတ်ဆိတ်ကို ပယ်၍ ရဟန်းပြု၏။

ဆံပင်၌ ကြောင့်ကြခြင်း တစ်ဆယ့်ခြောက်ပါးဟူသည် အဘယ်တို့နည်း၊ တန်ဆာဆင်ရခြင်း၌ ကြောင့်ကြမှု၊ ပြေပြစ် ချောမွေ့အောင် ပြုရခြင်း၌ ကြောင့်ကြမှု၊ ဆီလိမ်းရခြင်း၌ ကြောင့်ကြမှု၊ ခေါင်းလျှော်ရခြင်း၌ ကြောင့်ကြမှု၊ ပန်းပန်ဆင်ရခြင်း၌ ကြောင့်ကြမှု၊ အမွှေးအကြိုင်လိမ်းရခြင်း၌ ကြောင့်ကြမှု၊ ခေါင်းလျှော်ရန် တရော်ကင်ပွန်းစသည် စိမ်ထုံရခြင်း၌ ကြောင့်ကြမှု၊ သဖန်းခါးသီး ရှာရခြင်း၌ ကြောင့်ကြမှု၊ သျှိသျှားသီးရှာရခြင်း၌ ကြောင့်ကြမှု၊ ဆံပင်နက်အောင် ဆိုးရည်ဆိုးရခြင်း၌ ကြောင့်ကြမှု၊ သျှောင်ထုံးရခြင်း၌ ကြောင့်ကြမှု၊ ဘီးဖြင့်ဖြီးရခြင်း၌ ကြောင့်ကြမှု၊ ဆတ္တာသည်တို့ဖြင့် ပြုပြင်ရခြင်း၌ ကြောင့်ကြမှု၊ ထုံးပြီးသျှောင်ကို ဖြေပြန်ရခြင်း၌ ကြောင့်ကြမှု၊ သန်းရှာရခြင်း၌ ကြောင့်ကြမှု၊ ဆံပင်တို့ ကျွတ်ခဲ့ ပြတ်ခဲ့ကုန်သော် စိုးရိမ်ရကုန်၏၊ ပင်ပန်းရကုန်၏၊ ငိုကြွေးမြည်တမ်း ရကုန်၏၊ ရင်ဘတ်စည်တီး ညည်းတွားမြည်တမ်း ရကုန်၏၊ လွန်စွာ တွေဝေခြင်းသို့ ရောက်ရကုန်၏၊ သူငယ် ဤကြောင့်ကြမှု တစ်ဆယ့်ခြောက်ပါးတို့ဖြင့် ရစ်ပတ် နှောင့်ယှက်ကုန်သော လူတို့သည် အလွန်သိမ်မွေ့ နူးညံ့လှကုန်သော အလုံးစုံသော အတတ်ပညာတို့ကို ဖျက်ဆီးကြလေကုန်၏ဟု (အသျှင်ရောဟဏ မိန့်တော်မူ၏)။ အသျှင် သင်၏

အဝတ်တို့သည် အဘယ့်ကြောင့် တစ်ပါးသော သူတို့၏ အဝတ်ကဲ့သို့ မဟုတ်ကုန်သနည်း။ သူငယ် အဝတ်တို့သည် ကာမဂုဏ်တို့၌သာ မှီကုန်၏၊ လူတို့၏ အသွင်အပြင်, လူတို့၏ အဝတ်ဘဏ္ဍာ အသုံးအဆောင်တို့သည် ကာမဂုဏ်တို့၌သာ မှီကုန်၏၊ အဝတ်ကြောင့် ဖြစ်ကုန်သော ဘေးရန်ဟူသမျှတို့ သည် ဖန်ရည်ဆိုး ဝတ်သောသူအား မဖြစ်နိုင်ကုန်၊ ထို့ကြောင့် ငါ၏ အဝတ်တို့သည် တစ်ပါးသော သူတို့၏ အဝတ်ကဲ့သို့ မဟုတ်ကုန်။ အသျှင် သင်သည် အတတ်ပညာ မည်သည်တို့ကို တတ်ကျွမ်းပါ၏လောဟု လျှောက်၏။ သူငယ် ငါသည် လောက၌ အတတ်ပညာတို့ကိုလည်း တတ်ကျွမ်း၏၊ လောကထက် မြတ်သော မန္တန်ကိုလည်း ငါတတ်ကျွမ်း၏။ အသျှင် ထိုမန္တန်ကို အကျွန်ုပ်အားလည်း သင်ကြားပေးနိုင်ပါအံ့လောဟု (လျှောက်၏)။ သူငယ် သင်ကြားပေးနိုင်၏။ ယင်းသို့ ဖြစ်ပါမူ အကျွန်ုပ်အား သင်ကြားပေးပါလော့ဟု (လျှောက်၏)။ သူငယ် သင်ကြားပေးရန် အခါမဟုတ်သေး၊ ရွာတွင်းသို့ ဆွမ်းခံ ဝင်ဆဲဖြစ်သေး၏ဟု (အသျှင်ရောဟဏ မိန့်တော်မူ၏)။

ထိုအခါ နာဂသေနသူငယ်သည် အသျှင်ရောဟဏလက်မှ သပိတ်ကို ယူ၍ အိမ်တွင်းသို့ ပင့်ဆောင်ပြီးလျှင် မွန်မြတ်သော ခဲဖွယ်ဘောဇဉ်ဖြင့် ရောင့်ရဲသည့်တိုင်အောင်, တန်ပြီဟု တားမြစ်သည့်တိုင်အောင် ကိုယ်တိုင်လုပ်ကျွေး၍ အသျှင်ရောဟဏ ဆွမ်းစားပြီး၍ သပိတ်မှ လက်ကို ဖယ်ပြီးသောအခါ အသျှင်ရောဟဏအား "အသျှင် မန္တန်ကို ယခုအခါ အကျွန်ုပ်အား သင်ကြားပေးပါလော့" ဟု ပြောဆို၏။ "သူငယ် သင်သည် ကြောင့်ကြမှု အနှောင့်အယှက် ကင်းသည် ဖြစ်၍ အမိအဖတို့ကို ခွင့်ပြုစေလျက် ငါယူအပ်သော ရဟန်း အသွင်အပြင်ကို ယူသောအခါ၌ သင့်အား မန္တန်ကို သင်ကြားပေးအံ့" ဟု အသျှင်ရောဟဏ မိန့်တော်မူ၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

### နာဂသေန ရှင်ပြုခန်း

ထိုအခါ နာဂသေနသည် အမိအဖတို့ထံသို့ ချဉ်းကပ်ပြီးလျှင် "မိခင်ဖခင်တို့ ဤရဟန်းသည် 'လောကထက် လွန်မြတ်သော မန္တန်ကို ငါသိ၏' ဟု ပြောဆိုဘိ၏၊ မိမိထံ၌ ရဟန်း မပြုသူအားလည်း မပေး၊ အကျွန်ုပ်သည် ဤရဟန်း၏ အထံ၌ ရဟန်းပြု၍ ထိုမြတ်သော မန္တန်ကို သင်ယူပါအံ့" ဟု ပြောဆို၏။ ထိုအခါ ထိုနာဂသေန၏ အမိအဖတို့သည် "ငါတို့၏ သားသည် ရဟန်းပြု၍ မန္တန်ကို သင်ယူပါစေ၊ သင်ယူပြီးသော် တစ်ဖန် ပြန်လာလတ္တံ့" ဟု မှတ်ထင်ကုန်၍ "ချစ်သား သင်ယူပါလော့" ဟု အခွင့်လွှတ်ကုန်၏။

၁၃။ ထိုအခါ အသျှင်ရောဟဏသည် နာဂသေနသူငယ်ကို ခေါ်ယူခဲ့၍ ဝိဇမ္ဗဝတ္ထုကျောင်းတိုက်, ဝတ္တနိယကျောင်းသို့ ချဉ်းကပ်ပြီးလျှင် ဝိဇမ္ဗဝတ္ထုကျောင်းတိုက်၌ တစ်ညဉ့်မျှနေ၍ ထိုရက္ခိတကုန်းပြင်သို့ ချဉ်းကပ်လျက် များစွာသော ရဟန္တာတို့၏ အလယ်၌ နာဂသေနသူငယ်ကို ရှင်ပြုပေး၏၊ ရှင်ပြုပြီးသော သျှင်နာဂသေနသည် အသျှင်ရောဟဏအား "အသျှင် ဘုရား အကျွန်ုပ်သည် အသျှင်ဘုရား၏ အသွင်ကို ယူပြီးပါပြီ၊ ယခု အကျွန်ုပ်အား မန္တန်ကို သင်ကြားပေးတော်မူပါလော့" ဟု (လျှောက်၏)။ ထိုအခါ အသျှင်ရောဟဏသည် "ငါသည် နာဂသေနအား အဘယ်ပိဋကတ်၌ သင်ကြားပေးရအံ့နည်း၊ ဝိနည်း၌သော်လည်း ရှေးဦးစွာ သင်ကြားပေးရအံ့လော၊ သုတ္တန်၌သော်လည်း ရှေးဦးစွာ သင်ကြားပေးရအံ့လော၊ အဘိဓမ္မာ၌သော်လည်း ရှေးဦးစွာ သင်ကြားပေးရအံ့လော" ဟု ကြံစည်၍ ဤနာဂသေနသည် ပညာရှိ၏၊

လွယ်ကူသဖြင့်သာ အဘိဓမ္မာပိဋကကို သင်ယူခြင်းငှါ စွမ်းနိုင်၏ဟု ကြံစည်၍ ရှေးဦးစွာ အဘိဓမ္မာ၌ သင်ကြားပေး၏။

အသျှင်နာဂသေနသည်လည်း "ကုသလာ ဓမ္မာ, အကုသလာ ဓမ္မာ, အဗျာကတာ ဓမ္မာ" အစရှိသော တိက်, ဒုတ်တို့ဖြင့် တန်ဆာဆင်အပ်သော ဓမ္မသင်္ဂဏီကျမ်း၊ ခန္ဓဝိဘင်းအစရှိသော တစ်ဆယ့်ရှစ်ပါးသော ဝိဘင်းတို့ဖြင့် တန်ဆာဆင်အပ်သော ဝိဘင်းကျမ်း၊ "သင်္ဂဟော အသင်္ဂဟော" အစရှိသော တစ်ဆယ့်လေးပါး အပြားအားဖြင့် ဝေဖန်အပ်သော ဓာတုကထာကျမ်း၊ "ခန္ဓပညတ်, အာယတနပညတ်" အစရှိသော ခြောက်ပါးအပြားဖြင့် ဝေဖန်အပ်သော ပုဂ္ဂလပညတ်ကျမ်း၊ မိမိ၏ဝါဒ၌ သုတ်ငါးရာ, သူတစ်ပါးဝါဒ၌ သုတ်ငါးရာ ဤသို့ သုတ်တစ်ထောင်ကို ပေါင်း၍ ဝေဖန်အပ်သော ကထာဝတ္ထု ကျမ်း၊ "မူလယမိုက်, ခန္ဓယမိုက်" အစရှိသော ဆယ်ပါးအပြားဖြင့် ဝေဖန်အပ်သော ယမိုက်ကျမ်း၊ "ဟေတုပစ္စယော, အာရမ္မဏပစ္စယော" အစရှိသော နှစ်ဆယ့်လေးပါးအပြားဖြင့် ဝေဖန်အပ်သော ပဌာန်းကျမ်း၊ ဤသို့ ထိုအဘိဓမ္မာ ပိဋကတ် အားလုံးကို တစ်ကြိမ်ရွတ်အံ (သရဇ္ဈာယ်) ခြင်းဖြင့်ပင် လေ့လာသည်ကို ပြု၍ "အသျှင်ဘုရား ရပ်ဆိုင်းတော်မူပါကုန်၊ အဆုံးမသတ်ပါကုန်လင့်ဦး၊ အကျွန်ုပ်သည် ဤမျှဖြင့်ပင် ပြန်လှန် သရဇ္ဈာယ်ပါဦးအံ့" ဟု လျှောက်၏။

၁၄။ ထိုအခါ သျှင်နာဂသေနသည် များစွာသော ရဟန္တာတို့ထံသို့ ချဉ်းကပ်ပြီးသော် များစွာသော ရဟန္တာတို့အား "အသျှင်ဘုရားတို့ အကျွန်ုပ်သည် အဘိဓမ္မာပိဋကတ်အားလုံးကို 'ကုသလာ ဓမ္မာ, အကုသလာ ဓမ္မာ, အဗျာကတာ ဓမ္မာ' ဟူသော ဤသုံးပုဒ်တို့၌ ထည့်ထား၍ အကျယ်အားဖြင့် ပြီးဆုံးစေပါအံ့" ဟု လျှောက်၏၊ ငါ့သျှင် နာဂသေန ကောင်းပြီ ပြီးဆုံးစေလော့ဟု မိန့်ဆိုကုန်၏။

ထိုအခါ သျှင်နာဂသေနသည် အဘိဓမ္မာခုနစ်ကျမ်းတို့ကို ခုနစ်လတို့အတွင်း အကျယ်အားဖြင့် ပြီးဆုံးစေ၏၊ မြေကြီးသည် ပဲ့တင်ထပ်၏၊ နတ်တို့သည် ကောင်းချီးပေးကြကုန်၏၊ ဗြဟ္မာတို့သည် လက်ပန်းပေါက်ခတ်ကုန်၏၊ နတ်၌ ဖြစ်ကုန်သော စန္ဒကူးနံ့သာမှုန့် မိုးတို့သည် လည်းကောင်း၊ နတ်၌ ဖြစ်ကုန်သော မန္ဒာရဝပန်းမိုးတို့သည် လည်းကောင်း ရွာချကုန်၏။

------

# မိလိန္ဒပဉှာပါဠိတော်

## === ၁ - ဗာဟိရကထာ ===

## အသျှင်နာဂသေန ဆရာကို ပြစ်မှား၍ ဒဏ်ထားခန်း

၁၅။ ထိုအခါ များစွာသော ရဟန္တာတို့သည် အသက်နှစ်ဆယ်ပြည့်သော သျှင်နာဂသေနကို ရက္ခိတ ကုန်းပြင်၌ ရဟန်း ပြုပေးကြကုန်၏။ ရဟန်းဖြစ်ပြီးသော သျှင်နာဂသေနသည်လည်း ထိုရဟန်းဖြစ်ပြီး ညဥ့်လွန်သောအခါ နောက်တစ်နေ့ နံနက်အချိန် သင်္ကန်းကို ပြင်ဝတ်၍ သပိတ် သင်္ကန်းကို ယူဆောင် လျက် ဥပဇ္ဈာယ်ဖြစ်သော ရောဟဏမထေရ်နှင့်အတူ ရွာတွင်းသို့ ဆွမ်းခံဝင်သည်ရှိသော် "ငါ၏ ဥပဇ္ဈာယ်ဆရာသည် အချည်းနှီးပေတကား၊ ငါ၏ ဥပဇ္ဈာယ်ဆရာသည် မသိတတ်လှပေသည်တကား၊ အဘိဓမ္မာမှ ကြွင်းသော မြတ်စွာဘုရား ပါဠိတော်ကို ချွင်းချန်ထား၍ ငါ့ကို အဘိဓမ္မာ၌ ရှေးဦးစွာ သင်ကြားဆုံးမဘိ၏" ဟု ဤသို့ သဘောရှိသော အကြံအစည်ကို ဖြစ်စေ၏။

ထိုအခါ အသျှင်ရောဟဏသည် အသျှင်နာဂသေန၏ စိတ်အကြံကို မိမိစိတ်ဖြင့် သိ၍ အသျှင် နာဂသေနကို "နာဂသေန မသင့်လျော်သော အကြံအစည်ကိုသာ ကြံစည်ဘိ၏၊ နာဂသေန သင်၏ ဤ အကြံသည် မသင့်မလျော်ချေ" ဟု (မိန့်တော်မူ၏)။

ထိုအခါ အသျှင်နာဂသေနအား အချင်းတို့ အံ့ဩဖွယ်ရှိပေစွတကား၊ အချင်းတို့ မဖြစ်ဖူးမြဲ ဖြစ်ပေစွ တကား၊ ငါ၏ ဥပဇ္ဈာယ်ဆရာသည် မိမိ၏စိတ်ဖြင့် ငါ၏ စိတ်အကြံကို သိနိုင်ပါပေ၏၊ ငါ၏ ဥပဇ္ဈာယ် ဆရာသည် ပညာ ရှိလှပေသည်တကား၊ ငါသည် ဥပဇ္ဈာယ်ဆရာကို ကန်တော့ဝန်ချရမူကား ကောင်း လေစွ" ဟု အကြံဖြစ်၏။ ထိုသို့ အကြံဖြစ်သောအခါ သျှင်နာဂသေနသည် အသျှင်ရောဟဏအား "အသျှင်ဘုရား အကျွန်ုပ်အား သည်းခံတော်မူပါ၊ တစ်ဖန် ဤသို့သော အကြံအစည်ကို မကြံစည် တော့ပါ" ဟု လျှောက်၏။

ထိုအခါ အသျှင်ရောဟဏသည် အသျှင်နာဂသေနအား "နာဂသေန ငါသည် ဤမျှဖြင့် သင့်အား သည်းမခံနိုင်သေး၊ နာဂသေန သာဂလမည်သော မြို့သည် ရှိ၏၊ ထိုသာဂလမြို့၌ မိလိန္ဒမည်သော မင်းသည် မင်းအဖြစ်ကို ပြု၏၊ ထိုမိလိန္ဒ မင်းသည် အယူဝါဒကို ပြောဆိုသဖြင့် အမေးပုစ္ဆာပြဿနာကို မေး၍ ရဟန်းသံဃာကို ညှဉ်းဆဲ၏၊ သင်သည် ထိုသာဂလ မြို့သို့ သွား၍ ထိုမိလိန္ဒမင်းကို ဆုံးမပြီးလျှင် မြတ်စွာဘုရား သာသနာတော်၌ ကြည်ညိုစေနိုင်ခဲ့မူ ငါသည် သင့်ကို သည်းခံအံ့" ဟု မိန့်ဆို၏။

အသျှင်ဘုရား မိလိန္ဒမင်းတစ်ယောက်တည်းကို ထားဘိဦး၊ ဇမ္ဗူဒိပ်ကျွန်းလုံးက မင်းအားလုံးတို့သည် လာကုန်၍ အကျွန်ုပ်အား ပြဿနာကို မေးစေကုန်ဦးတော့၊ ထိုပြဿနာအားလုံးကို ဖြေ၍ အယူကို ဖောက်ခွဲ(ဖြိုခွင်း)ပါအံ့၊ "အသျှင် ဘုရား အကျွန်ုပ်အား သည်းခံတော်မူပါ" ဟု လျှောက်ထား၍ "သည်းမခံနိုင်သေး" ဟု ဆိုလတ်သော် "အသျှင်ဘုရား သို့ဖြစ်လျှင် ဤဝါတွင်း သုံးလပတ်လုံး အဘယ် ဆရာ၏ အထံ၌ နေရပါအံ့နည်း" ဟု လျှောက်ထား၏။ နာဂသေန ဤအသျှင်အဿဂုတ္တသည် ဝတ္တနိယ ကျောင်း၌ နေ၏၊ နာဂသေန သင်သည် သွားချေလော့၊ အသျှင်အဿဂုတ္တထံ ချဉ်းကပ်လေလော့၊ ချဉ်းကပ်ပြီးလျှင် ငါ၏ စကားဖြင့် အသျှင်အဿဂုတ္တ၏ ခြေတော်တို့ကို ဦးခိုက်ရှိခိုးလေလော့၊ ထိုအသျှင် အဿဂုတ္တအား ဤသို့လည်း လျှောက်ထားလေလော့ "အသျှင်ဘုရား အကျွန်ုပ်၏ ဥပဇ္ဈာယ်ဆရာသည် အသျှင် ဘုရားတို့၏ ခြေတော်တို့ကို ဦးခိုက်ရှိခိုးလိုက်ပါ၏၊ အနာကင်းခြင်း၊ ဆင်းရဲကင်းခြင်း၊ လျင်မြန်စွာ ထနိုင်ခြင်း၊ ခွန်အား ရှိခြင်း၊ ချမ်းသာစွာ နေရခြင်းကို မေးလိုက်ပါ၏၊ အသျှင်ဘုရား အကျွန်ုပ်၏ ဥပဇ္ဈာယ်ဆရာသည် ဤဝါတွင်းသုံးလပတ်လုံး အသျှင်ဘုရားတို့၏ အထံ၌ နေခြင်းငှါ အကျွန်ုပ်ကို စေလွှတ်လိုက်ပါ၏" ဟု (လျှောက်လေလော့)၊ ထို့ပြင်လည်း "သင်၏ ဥပဇ္ဈာယ်ဆရာသည် အဘယ် အမည် ရှိသနည်း" ဟု မေးခဲ့မူ "အသျှင်ဘုရား ရောဟဏထေရ်အမည် ရှိပါ၏" ဟု လျှောက်ထား

